ကုမ္ပဏီအမည် - ရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက်

လုပ်ငန်း - ရုပ်မြင်သံကြားရိုက်ကူး ထုတ်လုပ်ထုတ်လွှင့်ခြင်းနှင့် ဆက်စပ်သော ဝန်ဆောင်မှုလုပ်ငန်းများ (စီမံကိန်းအဆင့်-၂) ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၉-၁၀-၂၀၁၅ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၅-၁၁-၂၀၁၅ | ၁-၁၂-၂၀၁၅ | ၂၆ ရက် |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၅-၁၁-၂၀၁၅ | ၂၃-၁၁-၂၀၁၅ | ၁၉ ရက် |
| ၃ | PAT (၃၉/၂၀၁၅) သို့ တင်ပြခြင်း | ၂၁-၁၀-၂၀၁၅ | | |
| ၄ | အဆိုပြုချက်လက်ခံကြောင်းပြန်ကြားခြင်း | ၃-၁၁-၂၀၁၅ | | |
| ၅ | ကုမ္ပဏီမှ PAT အစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ တင်ပြလာခြင်း | ၃၀-၁၀-၂၀၁၅ | | |
| ၆ | ကုမ္ပဏီမှ အဆိုပြုလွှာ ပေးပို့ခြင်း | ၈-၁၂-၂၀၁၅ | | |
| ၈ | လိုအပ်ချက်အားဖြည့်စွက်၍ပြန်လည်တင်ပြခြင်း | ၇-၁၂-၂၀၁၅ | | |
| ၉ | **စုစုပေါင်းကြာမြင့်ရက်** | **၅၄ ရက်** | | |

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရွှေသံလွင် မီဒီယာ ကုမ္ပဏီ လီမိတက် (Shwe Than Lwin Media Co., Ltd.) မှ ရုပ်မြင်သံကြား ရိုက်ကူးထုတ်လုပ်ထုတ်လွှင့်ခြင်းနှင့် ဆက်စပ်သော ဝန်ဆောင်မှုလုပ်ငန်းများ (စီမံကိန်းအဆင့်-၂) ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Shwe Than Lwin Media Co., Ltd.<br>ဒေါ်မြင့်မြင့်ဝင်း(အဘ-ဦးသိန်းဝင်း) |
| ၂။ | ဖွဲ့စည်းမှုပုံသဏ္ဍာန် | - လီမိတက်ကုမ္ပဏီ (Private Company ဖြစ်ပါသည်) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ရုပ်မြင်သံကြား ရိုက်ကူးထုတ်လုပ်ထုတ်လွှင့်ခြင်းနှင့် ဆက်စပ်သော ဝန်ဆောင်မှုလုပ်ငန်းများ (စီမံကိန်းအဆင့်-၂) |
| ၄။ | တည်နေရာ | - အမှတ်-၁၃၉ A+ ၁၇၁ A / ၂၀၊ ၂၁၊ ၂၂၊ ၂၃၊ ၂၄၊ ၂၅၊ ၂၆၊ ၂၇၊ မေယုအိမ်ရာဝင်း၊ မေယုလမ်းထိပ်၊ အောက်ပုဇွန်တောင်လမ်း၊ ပိုလ်တထောင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေဧရိယာ | - မြေဧရိယာ (၁.၆၈၃)ဧက (၆၈၁၀.၈၇ စတုရန်းမီတာ) |
| | နှစ်စဉ်မြေငှားရမ်းခ | - တစ်လလျှင် ကျပ်သိန်း ၉၅၀ နှုန်း (တစ်နှစ်- ကျပ်သိန်း ၁၁,၄၀၀) |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | **ကျပ် (သန်း)** |

| | နိုင်ငံခြားငွေ (US$သန်း) | ကျပ်ငွေ (သန်း) | စုစုပေါင်း ထည့်ဝင်မှု (ကျပ်သန်း) |
|---|---|---|---|
| ငွေသား | | ၂၀၉,၄၃၀.၀၀ | ၂၀၉,၄၃၀.၀၀ |
| မြေ/ အဆောက်အဦ | | ၁,၁၄၀.၀၀ | ၁,၁၄၀.၀၀ |
| Production and Studio Equipment (ပြည်ပဝယ်) | ၅၈၁.၂၉၄ | | ၆၉၇,၅၅၃.၂၀ |
| ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်း | | ၆၀.၀၀ | ၆၀.၀၀ |
| **စုစုပေါင်း** | **၅၈၁.၂၉၄** | **၂၁၀,၆၃၀.၀၀** | **၉၀၈,၁၈၃.၂၀** |

* 1US$ = ၁၂၀၀ ကျပ်နှုန်း

| | | |
|---|---|---|
| ၆။ | တည်ဆောက်ရေးကာလ | - ၁၈လ |
| ၇။ | ရောင်းချမည့်ဝန်ဆောင်မှုအမျိုးအစား နှင့်နှုန်းထား (၆နှစ်မြောက်) | |

| SkyNet ရုပ်သံဖမ်းစက် | ရုပ်သံဖမ်းစက် နှုန်းထား | စက်အလုံး ရေ | စုစုပေါင်း (ကျပ်သန်း) |
|---|---|---|---|
| Satellite | ၅၅,၀၀၀ | ၂၅၅,၄၀၂ | ၁၄,၀၄၇.၁၂ |



INV-4

| | | |
|---|---|---|
| ၉။ | လစဉ်ဝန်ဆောင်မှုပေးမည့်အမျိုးအစားနှင့်နှုန်းထားများ(၆နှစ်မြောက်) | (ကျပ်သန်း) |

| Unit | Rate per month | လိုင်းအရောင်းသက်တမ်း Qty | လိုင်းအရောင်းသက်တမ်း Amt | သက်တမ်းတိုး Qty | သက်တမ်းတိုး Amt |
|---|---|---|---|---|---|
| SN-1 | 3,600 | ၁၁၇,၇၇၇ | ၄၂၃.၉၉၇ | ၂၄၃,၇၅၀ | ၈၇၇.၅၀၀ |
| SN-2 | 14,400 | ၆၄,၇၇၆ | ၉၃၂.၇၇၄ | ၁၃၆,၉၈၇ | ၁,၉၇၂.၆၁၃ |
| SN-3 | 19,800 | ၂၉,၉၆၁ | ၅၉၃.၂၂၈ | ၁၇၇,၅၂၆ | ၃,၅၁၅.၀၁၅ |
| SN-2 + HD | 23,400 | ၂၅,၇၈၈ | ၆၀၃.၄၃၉ | ၉၉,၅၀၀ | ၂,၃၂၈.၃၀၀ |
| SN-3 + HD | 25,800 | ၂၉,၇၈၇ | ၇၆၈.၅၀၅ | ၈၀,၀၈၇ | ၂,၀၆၆.၂၄၄ |
| SN-9 | 6,300 | ၁၉၇,၅၁၇ | ၁,၂၄၄.၃၅၇ | ၃၄၆,၉၀၀ | ၂,၁၈၅.၄၇၀ |
| 36 Plan D | 13,500 | ၃၀၀,၆၀၀ | ၄,၀၅၈.၁၀၀ | ၃၀၂,၈၇၃<br>၁၁၅,၄၃၀ | ၄,၀၈၈.၇၈၆ |
| **စုစုပေါင်း** | | | **၈,၆၂၄.၄၀၀** | | **၁၇,၀၃၃.၉၂၈** |

| **ဆဌမနှစ် စုစုပေါင်းဝင်ငွေ** | **ဝင်ငွေ (ကျပ်သန်း)** |
|---|---|
| ရုပ်သံဖမ်းစက်+ ကတ်+ ဗန်း | ၁၄,၀၄၇.၁၂၀ |
| လိုင်းရောင်းရငွေ+ သက်တမ်းတိုးဝင်ငွေ | ၂၅,၆၅၈.၃၂၈ |
| **ရရှိငွေ** | **၃၉,၇၀၅.၄၄၈** |
| **စီမံကိန်း(၂)အတွက် ကုမ္ပဏီမှ ခွဲဝေရရှိငွေ (၄၀%)** | ၂၃,၈၂၃.၂၆၉ |
| ကြော်ငြာခ ဝင်ငွေ | ၅,၀၄၀.၀၀၀ |
| **စုစုပေါင်း ဝင်ငွေ** | **၂၈,၈၆၃.၂၆၉** |

| | | |
|---|---|---|
| ၁၀။ | ဝန်ထမ်းအင်အား(ပထမနှစ်) | - ၇၅၆ ဦး (အနိမ့်ဆုံးလစာ မှာ ၁၂၀,၀၀၀ ကျပ် အမြင့်ဆုံးလစာမှာ ၁,၅၀၀,၀၀၀ ကျပ်) |
| ၁၁။ | ဝင်ငွေ (၆နှစ်မြောက်) | - ကျပ် ၂၈,၈၆၃.၂၇ သန်း |
| | အသုံးစရိတ် (၆နှစ်မြောက်) | - ကျပ် ၁၅,၂၁၀.၃၈ သန်း |
| | အသားတင်အမြတ် (၆နှစ်မြောက်) | - ကျပ် ၁၃,၆၅၂.၈၉ သန်း |
| ၁၂။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်ဝင်ငွေခွန် | - ကျပ် ၄,၅၅၀.၉၆ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၁,၃၇၄.၄၄ သန်း |
| | အရင်းကြေကာလ | - ၁၂ နှစ် |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၃.၀၄ % |
| ၁၃။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၅၀၀ KVA၊ ၂၀၀ KVA |
| ၁၄။ | CSR | - နှစ်စဉ်အသားတင်အမြတ်ငွေ၏ ၃% ကို အသုံးပြုမည်ဟု တင်ပြထားပါသည်။ |

ကုမ္ပဏီအမည် - ရွှေသံလွင် မီဒီယာ ကုမ္ပဏီ လီမိတက်(Shwe Than Lwin Media Co., Ltd)
အဖွဲ့အစည်းပုံသဏ္ဍာန် - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု
လုပ်ငန်းအမျိုးအစား - ရုပ်မြင်သံကြား ရိုက်ကူး ထုတ်လုပ်ထုတ်လွှင့်ခြင်းနှင့် ဆက်စပ်သော ဝန်ဆောင်မှုလုပ်ငန်းများ (စီမံကိန်းအဆင့်-၂)
တည်နေရာ - ရန်ကုန်တိုင်းဒေသကြီး၊ ပိုလ်တထောင်မြို့နယ်၊ အောက်ပုဇွန်တောင်လမ်း၊ မေယုအိမ်ရာဝင်း၊ မေယုလမ်းထိပ်၊ အမှတ်-၁၃၉ A+ ၁၇၁ A / ၂၀၊ ၂၁၊ ၂၂၊ ၂၃၊ ၂၄၊ ၂၅၊ ၂၆၊ ၂၇၊
စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - ကျပ် ၉၀၈,၁၈၃.၂ သန်း
အရင်းကြေကာလ - ၁၂နှစ်
IRR - ၃.၀၄ %

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀၀ သန်း | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၂၀၀ သန်း |
| ၃ | သွင်းကုန်ခွန်ကင်းလွတ်ခွင့် | ကျပ် ၆,၉၇၆.၁၃၂ သန်း | - |
| ၄ | ဝင်ငွေခွန် | ကျပ် ၂၀,၆၀၄.၉၇၃ သန်း | ကျပ် ၆၁,၅၁၁.၉၅၁ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် ၆,၂၈၄.၀၈၈ သန်း | ကျပ် ၁၆,၉၈၇.၄၇၅ သန်း |
| ၆ | ရေ၊ လျှပ်စစ်မီး၊ လောင်စာသုံးစွဲခ | | ကျပ် ၆၇၈.၀၀၀ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ် ဝင်ငွေ ကျပ် ၂ သန်း ကျော်ပါက အခွန် ပေးရမည့် ဝန်ထမ်း (၈၂၅) ဦး |
| ၈ | CSR (၃%) | | ကျပ် ၅,၀၃၈.၄၄၄ သန်း |
| ၉ | မြေငှားရမ်းခရငွေ | | ကျပ် ၂၈,၅၀၀.၀၀၀ သန်း |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | လုပ်သား (၉၀၀) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကိုအထောက်အကူပြုစေပါ သည်။ အလုပ်အကိုင်အခွင့်အလမ်းများ ပိုမို ရရှိစေပြီး ဆင်းရဲနွမ်းပါးမှုလျော့ချရေး ကို အထောက်အကူပြုစေနိုင်ပါသည်။ |
| | | **ကျပ် ၃၃,၈၆၈.၁၉၃ သန်း** | **ကျပ် ၁၁၂,၇၁၇.၀၇ သန်း** |
| | | **၁ း ၃.၃၃** | |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက- ၅(အ)/မ-၀၀၅/၂၀၁၅ (၄၂၇)
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၂၃ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရွှေသံလွင် မီဒီယာ ကုမ္ပဏီ လီမိတက် (Shwe Than Lwin Media Co., Ltd.) မှ ရုပ်မြင်သံကြားရိုက်ကူး ထုတ်လုပ်ထုတ်လွှင့်ခြင်းနှင့် ဆက်စပ်သော ဝန်ဆောင်မှုလုပ်ငန်းများ (စီမံကိန်း အဆင့်-၂) ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

၁။ ရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက် (Shwe Than Lwin Media Co., Ltd.)မှ ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊ အောက်ပုဇွန်တောင်လမ်း၊ မေယုအိမ်ရာဝင်း၊ မေယုလမ်း ထိပ်၊ အမှတ်-၁၃၉ A+ ၁၇၁ A / ၂၀၊ ၂၁၊ ၂၂၊ ၂၃၊ ၂၄၊ ၂၅၊ ၂၆၊ ၂၇၊ ရှိ မြေဧရိယာ (၁.၆၈၃)ဧက (၆၈၁၀.၈၇ စတုရန်းမီတာ) တွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရုပ်မြင်သံကြား ရိုက်ကူး ထုတ်လုပ် ထုတ်လွှင့်ခြင်းနှင့် ဆက်စပ်သောဝန်ဆောင်မှုလုပ်ငန်းများ (စီမံကိန်းအဆင့်-၂) ဆောင်ရွက်ခွင့်ပြုပါရန် ပြန်ကြားရေးဝန်ကြီးဌာနမှတစ်ဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာ တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ဒေါ်သန်းစိန်နှင့် ရွှေသံလွင်မီဒီယာကုမ္ပဏီ (Shwe Than Lwin Media Co., Ltd.) တို့ ချုပ်ဆိုထားသည့် မြေငှားစာချုပ်၊ မူလပိုင်ရှင် ဒေါ်သန်းစိန်၏ မြေအထောက်အထားများ၊ ရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက်၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်မိတ္တူ၊ ဒါရိုက်တာစာရင်း၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းတို့အား တင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်းပါ စီမံကိန်းအပိုင်း(၂)တွင် ဆောင်ရွက်မည့်အဓိကလုပ်ငန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) MRTV ရုပ်သံထပ်ဆင့်လွှင့်စက်ရုံပေါင်း (၂၅၀)ခန့်အနက် လွှင့်အားနိမ့် (Lower Power) လွှင့် စက်ရုံငယ် (၁၈၀) ရုံခန့်တွင် စက်ခန်း၊ အဆောက်အဦ၊ တာဝါတိုင်နှင့် လျှပ်စစ်ဓာတ်အားစနစ်တို့ကို ပူးတွဲ အသုံးပြုပြီး လွှင့်စက်များတိုးချဲ့တပ်ဆင်ခြင်းလုပ်ငန်း၊

(ခ) ပူးတွဲအသုံးပြုမည့် လွှင့်စက်ရုံများတွင် ကြံ့ခိုင်မှုနှင့် စွမ်းရည်ပြည့်မီမှုမရှိသော စက်ခန်း၊ အဆောက်အဦများ၊ တာဝါတိုင်များ၊ Antenna System များအား အစားထိုးလဲလှယ်ခြင်း၊ ဖြည့်စွက်တည်ဆောက်ခြင်းလုပ်ငန်း၊

(ဂ) MRTV ရုပ်သံလွှင့်စက်ရုံများတွင် လွှင့်အားကြီး (High Power) စက်ရုံများ၌ စက်ပစ္စည်းများ၊ ပူးတွဲတပ်ဆင်ရန် နေရာများမလုံလောက်ခြင်း၊ တပ်ဆင်ထားသော တာဝါတိုင်နှင့် အသံလွှင့်တိုင် Antenna System များကို စွမ်းအား မြှင့်ရန် ခက်ခဲခြင်းတို့ကြောင့် နေရာသစ် ရွေးချယ်၍ သီးခြားတည်ဆောက် သွားမည်ဖြစ်ပြီး သီးခြားတည်ဆောက်ရန်လျာထားသော လွှင့်စက်ရုံပေါင်း (၆၃) ရုံ စာရင်းကို ပူးတွဲ ဖြင့်တင်ပြထားပါသည်။ **နောက်ဆက်တွဲ-က**

(ဃ) လှိုင်းနှုန်းခွင့်ပြုချက်အရ လွှင့်စက်များကို တိုးချဲ့တပ်ဆင်ရေးနှင့် တိုးချဲ့တပ်ဆင်ရန် အဆောက်အဦနှင့် လျှပ်စစ်ဓာတ်အားစနစ်အပါအဝင် လိုအပ်ချက်များ ဖြည့်ဆည်းဆောင်ရွက်ခြင်းလုပ်ငန်း၊

(င) မြေပြင်အခြေစိုက် DVB-T2 သာမက VHF Band III နှင့် Band II တွင် ဆောင်ရွက်မည့် ဒီဂျစ်တယ်ရေဒီယိုထုတ်လွှင့်မှု DAB+, DRM+ တို့နှင့် ရုပ်သံ Mobile ထုတ်လွှင့်မှုလုပ်ငန်း၊

(စ) Multi-platform ကွန်ရက်ဖွဲ့စည်းခြင်းလုပ်ငန်း

အဆိုပြုလုပ်ငန်း၏ စီမံကိန်းအပိုင်း(၂)ပါ လုပ်ငန်းရပ်များအား အဆင့်(၃)ဆင့် ဖြင့် ထပ်မံခွဲခြားဆောင်ရွက်သွားမည်ဖြစ်ပါသည်။ **နောက်ဆက်တွဲ-ခ**

၄။ ၂၀၁၄ခုနှစ် အောက်တိုဘာလ ၂၁ ရက်နေ့ ရက်စွဲဖြင့် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ဖြည့်စွက်ချုပ်ဆိုထားသည့် သဘောတူစာချုပ်ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ဝန်ဆောင်မှုလုပ်ငန်းများတွင် ကြော်ငြာထည့်သွင်းခြင်းလုပ်ငန်းအပါအဝင် ဖြစ်ထွန်းလာသော လုပ်ငန်းများမှရရှိသည့် ဝင်ငွေများအနက်မှ ဤပြင်ဆင်ဖြည့်စွက်သည့် သဘောတူစာချုပ်ပါ ငွေကြေးတွက်ချက်မှု ပမာဏအတိုင်း လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ သို့ပေးသွင်းပြီး ကျန်ရှိသည့် အကျိုးအမြတ်အား လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ မှ ခံစားရမည်ဖြစ်သည်။(စာချုပ်အပိုဒ် ၂-ဠ)

(ခ) လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ သည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူနှင့် Joint ပြုလုပ်ပြီး နောင်တွင် Broadcasting Network Operator အဖြစ် ဆောင်ရွက်ခွင့်ရှိသည်။ ထိုသို့ဆောင်ရွက်ခြင်းအတွက် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူနှင့် လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ တို့အကြား သီးခြားစာချုပ်ချုပ်ဆိုရမည်။ (စာချုပ်အပိုဒ် ၂-ဍ)

(ဂ) စာချုပ်အပိုဒ်(၁၀-ခ)ပါ Infrastructure ငှားရမ်းခများကို ပူးတွဲဖြင့် တင်ပြထားပါသည်။ **နောက်ဆက်တွဲ-ဂ**

(ဃ) မူလစာချုပ်အပိုဒ် (၈-က) အရ ပထမ(၃)နှစ် ကာလ ရရှိသော ဝင်ငွေမှ ဥပဒေအရ ပေးဆောင်ရန် ရှိသည့် အခွန်အခအားလုံးကို ပေးဆောင်ခြင်းမှ လည်းကောင်း၊ အကျိုးအမြတ်ခွဲဝေခြင်းမှ သော်လည်းကောင်း၊ ကင်းလွတ်ခွင့်ပြုသောကာလဟု သတ်မှတ်သည်။ ယင်း (၃)နှစ်တာကာလ၏ နောက်ပိုင်း အပိုဒ် ၂(ဃ) အရ ငှားရမ်းသည့် ဝန်ဆောင်မှုလုပ်ငန်းများအတွက် ကြည့်ရှုသူများထံမှ ကောက်ခံရရှိသည့် ငှားရမ်းကြည့်ရှုခ ဝင်ငွေများနှင့် ကောက်ခံရရှိသည့် ကြော်ငြာခဝင်ငွေများအနက်မှ ဥပဒေအရ ပေးဆောင်ရန်ရှိသည့် နိုင်ငံတော်သို့ ပေးဆောင်ရမည့် အခွန်အခအားလုံးကို ပေးဆောင်ပြီး ကျန်ရှိသည့်ငွေကြေးတို့ကို အောက်ပါသတ်မှတ်ရာခိုင်နှုန်းအချိုးအစားအတိုင်း ခံစားခွင့်ပြုရန်ဖြစ်ပါသည်-

| | | "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ရမည့်အချိုး | "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" ရမည့်အချိုး |
|---|---|---|---|
| ပထမ | (၃)နှစ် နောက်ပိုင်း | | |
| ဒုတိယ | (၅)နှစ် | ၄% | ၉၆% |
| တတိယ | (၅)နှစ် | ၈% | ၉၂% |
| စတုတ္ထ | (၅)နှစ် | ၁၂% | ၈၈% |
| ပဉ္စမ | (၅)နှစ် | ၁၆% | ၈၄% |
| ဆဋ္ဌမ | (၅)နှစ် | ၂၀% | ၈၀% |
| သတ္တမ | (၅)နှစ် | ၂၅% | ၇၅% |

(င) စာချုပ်သက်တမ်းမှာ စတင်အကျိုးသက်ရောက်သည့်နေ့မှစ၍ (၃၃)နှစ် ဖြစ်သည်။ (မူလစာချုပ်အပိုဒ်၁၄-က) --------စာချုပ်သက်တမ်းကာလကုန်ဆုံး၍ လုပ်ငန်း ဆက်လက်ဆောင်ရွက်လိုပါက စာချုပ်ဝင်နှစ်ဦးနှစ်ဘက် ညှိနှိုင်းသဘောတူညီချက်ဖြင့် ဆောင်ရွက်ရမည်။ (စာချုပ်အပိုဒ် ၁၂-ခ)

၅။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ စုစုပေါင်းမြေဧရိယာ (၁.၆၈၃)ဧက (၆၈၁၀.၈၇ စတုရန်းမီတာ) ဖြစ်ပြီး ငှားရမ်းခမှာ တစ်လလျှင် ကျပ်သိန်း ၉၅၀ နှုန်းဖြင့် တစ်နှစ် ကျပ်သိန်း ပေါင်း ၁၁,၄၀၀ ဖြစ်ပါသည်။ မြေငှားရမ်းကာလမှာ ကနဦး ၁၀ ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ စုစုပေါင်း (၁၈) လ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ် ၉၀၈,၁၈၃.၂၀ သန်း ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ကြမည်ဖြစ်ပါသည်-

| | US$ (သန်း) | ကျပ် (သန်း) | စုစုပေါင်းကျပ် (သန်း) |
|---|---|---|---|
| ငွေသား | | ၂၀၉,၄၃၀.၀၀ | ၂၀၉,၄၃၀.၀၀ |
| မြေ/ အဆောက်အဦ | | ၁,၁၄၀.၀၀ | ၁,၁၄၀.၀၀ |
| Production and Studio Equipment (ပြည်ပဝယ်) | ၅၈၁.၂၉၄ | | ၆၉၇,၅၅၃.၂၀ |
| ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်း | | ၆၀.၀၀ | ၆၀.၀၀ |
| **စုစုပေါင်း** | **၅၈၁.၂၉၄** | **၂၁၀,၆၃၀.၀၀** | **၉၀၈,၁၈၃.၂၀** |

၇။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း (၇၅၆) ဦး ခန့်ထားမည်ဖြစ်ပြီး ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၁,၅၀၀,၀၀၀ ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်း၏ ဝန်ဆောင်မှုပေးမည့် အမျိုးအစားအလိုက် ခွဲခြားထားပြီး ရောင်းချမည့် နှုန်းထားများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| Unit | Rate | လိုင်းအရောင်းသက်တမ်း | | သက်တမ်းတိုး(ကျပ်သန်း) | |
|---|---|---|---|---|---|
| | | Qty | Amt | Qty | Amt |
| SN-1 | ၃,၆၀၀ | ၁၁၇,၇၇၇ | ၄၂၃.၉၉၇ | ၂၄၃,၇၅၀ | ၈၇၇.၅၀၀ |
| SN-2 | ၁၄,၄၀၀ | ၆၄,၇၇၆ | ၉၃၂.၇၇၄ | ၁၃၆,၉၈၇ | ၁,၉၇၂.၆၁၃ |
| SN-3 | ၁၉,၈၀၀ | ၂၉,၉၆၁ | ၅၉၃.၂၂၈ | ၁၇၇,၅၂၆ | ၃,၅၁၅.၀၁၅ |
| SN-2 + HD | ၂၃,၄၀၀ | ၂၅,၇၈၈ | ၆၀၃.၄၃၉ | ၉၉,၅၀၀ | ၂,၃၂၈.၃၀၀ |
| SN-3 + HD | ၂၅,၈၀၀ | ၂၉,၇၈၇ | ၇၆၈.၅၀၅ | ၈၀,၀၈၇ | ၂,၀၆၆.၂၄၄ |
| SN-9 | ၆,၃၀၀ | ၁၉၇,၅၁၇ | ၁,၂၄၄.၃၅၇ | ၃၄၆,၉၀၀ | ၂,၁၈၅.၄၇၀ |
| 36 Plan | ၁၃,၅၀၀ | ၃၀၀,၆၀၀ | ၄,၀၅၈.၁၀၀ | ၃၀၂,၈၇၃ | ၄,၀၈၈.၇၈၆ |
| D | | | | ၁၁၅,၄၃၀ | |
| | **စုစုပေါင်း** | | **၈,၆၂၄.၄၀၀** | | **၁၇,၀၃၃.၉၂၈** |

| **ဆဋ္ဌမနှစ် စုစုပေါင်းဝင်ငွေ** | **ဝင်ငွေ (ကျပ်သန်း)** |
|---|---|
| ရုပ်သံဖမ်းစက်+ ကတ်+ ဗန်း | ၁၄,၀၄၇.၁၂၀ |
| လိုင်းရောင်းရငွေ+ သက်တမ်းတိုးဝင်ငွေ | ၂၅,၆၅၈.၃၂၈ |
| **စုစုပေါင်းရရှိငွေ** | **၃၉,၇၀၅.၄၄၈** |
| **စီမံကိန်း(၂)အတွက် ကုမ္ပဏီမှ ခွဲဝေရရှိငွေ (၆၀%)** | ၂၃,၈၂၃.၂၆၉ |
| ကြော်ငြာခ ဝင်ငွေ | ၅,၀၄၀.၀၀၀ |
| **စုစုပေါင်း ဝင်ငွေ** | **၂၈,၈၆၃.၂၆၉** |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဌမနှစ်)တွင် ကုမ္ပဏီမှရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၂၈,၈၆၃.၂၇ |
| (ခ) | အသုံးစရိတ် | ၁၅,၂၁၀.၃၈ |
| (ဂ) | အသားတင်အမြတ် | ၁၃,၆၅၂.၈၉ |

၁၀။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင်ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၄,၅၅၀.၉၆ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၁,၃၇၄.၄၄ သန်းဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၁၂ နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ် နှုန်း (IRR) မှာ ၃.၀၄ % ဖြစ်ပါသည်။

၁၁။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး**မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါကြောင်း၊ အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၇၅၆)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါကြောင်း၊ အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊ အောက်ပုဇွန်တောင်လမ်း၊ မေယုလမ်းထိပ်၊ မေယုအိမ်ရာဝင်း၊ အမှတ်(၁၃၉-အေ)/ (၁၇၁-အေ)၊ (၂၀၊ ၂၁၊ ၂၂၊ ၂၃၊ ၂၄၊ ၂၅၊ ၂၆၊ ၂၇) ရှိ မြေဧရိယာ (၁.၆၈၃) ဧက (၆၈၁၀.၈၇ စတုရန်းမီတာ) အား တစ်နှစ်လျှင် (၁၁၄၀၀၀၀၀၀ိ/-)၊ တစ်လလျှင် (၉,၅၀၀,၀၀၀ိ/-) (1sqft=1296ကျပ်၊ 1sqm=13861ကျပ်) နှုန်းဖြင့် (၁.၉.၂၀၁၅) ရက်နေ့မှ (၃၁.၈.၂၀၂၅) ရက်နေ့အထိ (၁၀)နှစ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း၊ လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံ ဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်း၊ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၂၇ ရက်တွင် ကျင်းပခဲ့သော ရန်ကုန်တိုင်းဒေသကြီးစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၅၄/၂၀၁၅) ဆုံးဖြတ်ချက်အရ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်းထောက်ခံပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ-ဃ**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနမှ** အောက်ပါအတိုင်း သဘောထားပြန်ကြားလာပါသည်-

(၁) ရုပ်သံရိုက်ကူးရန် လိုအပ်သော Indoor Studio များ၊ ရုပ်သံထုတ်လွှင့်မည့် တာဝါတိုင်များ၊ TV Station များ စသည့် Network Infrastructure များ တည်ဆောက်မည် ဖြစ်သောကြောင့် တည်ဆောက်ရေး လုပ်ငန်းခွင်မှထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ ယာဉ်/ယန္တရားများမှ ထွက်ရှိလာမည့် ဆူညံသံ၊ စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များ၊ ရုပ်သံရိုက်ကူး ထုတ်လွှင့်ရေးယာဉ်များ၊ စက်ပစ္စည်းကိရိယာများ သယ်ယူပို့ဆောင်ရေး ယာဉ်များမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များ၊ လုပ်ငန်းခွင်မှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း အစိုင်အခဲ၊ အရည်၊ အခိုးအငွေ့၊ အသံစသည်တို့ကို စနစ်တကျ စီမံခန့်ခွဲမှု မပြုလုပ်ပါက ပတ်ဝန်းကျင်ရှိ ရေထု၊ လေထု၊ မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ် စေနိုင်ခြင်း၊ လုပ်ငန်းသုံး စက်ပစ္စည်းများကြောင့် အသံဆူညံမှုဖြစ်ခြင်း စသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများ အနည်းဆုံး ဖြစ်စေရေး လိုက်နာဆောင်ရွက် ရန်။

(၂) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက် ပျက်စီးမှုများ လျော့နည်းစေရေးအတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်း ဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းစနစ်များ အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု (CSR) လုပ်ငန်းများ အတွက် အသားတင် အမြတ်ငွေ၏ (၃%) အား အသုံးပြုရန် အပါအဝင် ကတိကဝတ်များနှင့်လုပ်ငန်း စီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်။

(၃) ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာထိခိုက်မှု အနည်းဆုံးဖြစ်စေသည့်လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါး ရေးအစီအစဉ်၊ ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည် တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan-EMP) ရေးဆွဲ၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနသို့ တင်ပြရန်နှင့် EMP အစီအစဉ်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်။

**(ကုမ္ပဏီမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုတင်ပြထားပါသည်။)**

**နောက်ဆက်တွဲ-င**

၁၂။ ရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက်မှ မန်နေးဂျင်း ဒါရိုက်တာ ဒေါ်မြင့်မြင့်ဝင်းသည် CB Bank တွင် ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၄ ရက်နေ့ ရက်စွဲဖြင့် ငွေကျပ် ၂၁၇.၄၆၃ သန်း ရှိကြောင်း အထောက်အထားနှင့် ကမ္ဘောဇဘဏ် (ပုဇွန်တောင်ဘဏ်ခွဲ)တွင် ၂၀၁၅ခုနှစ် ဖေဖော်ဝါရီလ ၃ရက်နေ့ ရက်စွဲဖြင့် ငွေကျပ် ၂၅၂.၇၁၆ သန်း ရှိကြောင်း ဘဏ်အထောက်အထားများ တင်ပြထားပါသည်။

၁၃။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများ ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ကြောင်း၊ ကုမ္ပဏီအနေဖြင့် အဆိုပြုလုပ်ငန်းအတွက် လုံလောက်သော ရင်းနှီးငွေကို မြန်မာကျပ်ငွေ၊ စက်ပစ္စည်းများ ထည့်ဝင်ပြီး ရင်းနှီးမြှုပ်နှံမည်ဖြစ်ပြီး ရရှိလာသော အကျိုးအမြတ်များကိုလည်း ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အတွင်း အခြားခွင့်ပြုထားသည့် စီးပွားရေးလုပ်ငန်းများတွင် ပြန်လည် ရင်းနှီးမြှုပ်နှံသွားမည်ဖြစ်ကြောင်းနှင့် နိုင်ငံတော်အတွက် ရသင့်ရထိုက်သည့် အခွန်ဘဏ္ဍာငွေများရရှိစေရန်အတွက်လည်းကောင်း ရည်ရွယ်လျက် စီမံကိန်းလုပ်ငန်းအဖြစ် လုပ်ကိုင်ဆောင်ရွက်ခွင့်ရရှိရန် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားခြင်းဖြစ်ကြောင်း တင်ပြထားပါသည်။ နိုင်ငံတော်မှ ချမှတ်ထားသော မြေယာပိုင်ဆိုင်မှုဥပဒေအား လိုက်နာ ဆောင်ရွက်သွားမည်ဟု ကတိပြုပါကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာတွင် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေအရ လိုအပ်သော (Environmental Management Plan-EMP) စသည့်အစီအမံများအား လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ ရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက် (Shwe Than Lwin Media Company Limited) သည် ဝန်ထမ်းများအတွက် လစာအပြင် နှစ်သစ်ကူးအပိုဆုကြေး၊ ကျန်းမာရေး၊ သာရေး၊ နာရေးတို့အတွက် ထောက်ပံ့ကြေး၊ အလုပ်ချိန်နှင့်အချိန်ပိုကြေးတို့ကို အလုပ်သမားညွှန်ကြားမှုဦးစီးဌာနမှ ထုတ်ပြန်ထားသော စည်းမျဉ်းစည်းကမ်းများအတိုင်း လက်ခံကျင့်သုံး ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ဝန်ထမ်းနားနေဆောင်များနှင့် လုပ်ငန်းခွင်ထိခိုက်မှုများအတွက် ဆေးပေးခန်းများ တည်ဆောက်ပေးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ လူမှုဘဝသာယာဝပြောရေး (Corporate Social Responsibility-CSR) အတွက် နှစ်စဉ်အသားတင်အမြတ်၏ ၃ % ထားရှိပြီး ရပ်ကွက်များ

တွင် လိုအပ်သည့်ဆေးပေးခန်း၊ ကျောင်း၊ စာကြည့်တိုက်စသည်တို့တွင် လျှဒါန်းရန်စီစဉ်ထားပါကြောင်း တင်ပြထားပါသည်။

၁၅။ **လျှပ်စစ်ဓာတ်အားသုံးစွဲမှုစီမံချက် အနေနှင့်** ကုမ္ပဏီမှ လုပ်ငန်းလည်ပတ်ရန်အတွက် လျှပ်စစ်ဓာတ်အားကို လျှပ်စစ်ဝန်ကြီးဌာနမှ ပေးသော မဟာဓာတ်အားလိုင်းမှ ရရှိသုံးစွဲမည့်အပြင် ကိုယ်ပိုင်မီးစက် ၅၀၀ KVA နှင့် ၂၀၀ KVA တို့ဖြင့် လည်ပတ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၆။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၂၆ ရက်နေ့တွင် ကျင်းပသော (၃၉/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးတွင် တင်ပြဆွေးနွေးပြီးဖြစ်ပါသည်။

၁၇။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ၂၀(က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည၊ ဋ) အရ အခွန်အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

၁၈။ **စိစစ်တင်ပြချက်**

(က) ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ ၂၀၁၀ခုနှစ် ဩဂုတ်လ ၁၁ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် ၇၁/၂၀၁၀ ဖြင့် နိုင်ငံတော်ပိုင် စီးပွားရေး လုပ်ငန်းများ ဥပဒေ ပုဒ်မ ၃ ပုဒ်မခွဲ(ဈ) အရ အစိုးရကသာ နိုင်ငံတော်ပိုင် စီးပွားရေးလုပ်ငန်း အဖြစ် လုပ်ကိုင်ဆောင် ရွက်ခွင့်ရှိ သည့် အသံလွှင့်လုပ်ငန်းနှင့် ရုပ်မြင်သံကြား ထုတ်လွှင့်ခြင်း လုပ်ငန်းများအနက် အသံလွှင့်လုပ်ငန်းဖြစ်သော ရုပ်သံလိုင်း သစ် (MITV Channel) ထုတ်လွှင့်ခြင်းကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ ၂၀၁၀ ခုနှစ် ဇူလိုင်လ ၂ ရက်နေ့တွင်ကျင်းပခဲ့သည့် အစည်းအဝေး အမှတ် စဉ် ၂၅/၂၀၁၀ အရ Shwe Than Lwin Media Company Limited အား လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုကြောင်းနှင့် အဆိုပါ လုပ်ငန်းအား ကြီးကြပ်ကွပ်ကဲရန် ပြန်ကြားရေးဝန်ကြီးဌာနအား လုပ်ပိုင်ခွင့်အပ်နှင်းကြောင်း အထောက် အထား ပူးတွဲတင်ပြထားပါသည်။

(ခ) ပြန်ကြားရေးဝန်ကြီးဌာန၊ မြန်မာ့အသံနှင့်ရုပ်မြင်သံကြား နှင့် Shwe Than Lwin Media Company Limited တို့၏ ၂၀၁၀ ခုနှစ်၊ ဇူလိုင်လ ၊ ၂၈ ရက်နေ့တွင် ချုပ်ဆိုသော Myanmar International ရုပ်/သံလိုင်းသစ် (MITV Channel) ထုတ်လွှင့်ခြင်း(Broadcasting) လုပ်ငန်းကို ပူးပေါင်းဆောင်ရွက်ရေးနှင့် DTH စနစ်ဖြင့် ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရေး သဘောတူစာချုပ် အပေါ် ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ချုပ်ဆိုထားသည့်စာချုပ်၊

ငှင်းစာချုပ်အား ပြင်ဆင်ဖြည့်စွက်ချုပ်ဆိုခွင့်အတွက် ၂၀၁၄ခုနှစ် စက်တင်ဘာလ ၂၅ ရက်နေ့တွင် ကျင်းပခဲ့သော ပြည်ထောင်စု အစိုးရအဖွဲ့ အစည်း အဝေးအမှတ်စဉ် (၁၉/၂၀၁၄) တွင် အတည်ပြု ဆုံးဖြတ်ခဲ့ကြောင်း နိုင်ငံတော်သမ္မတရုံး၏ ၂၀၁၄ခုနှစ် စက်တင်ဘာလ ၁ ရက်နေ့ နှင့် ပြည်ထောင်စုအစိုးရအဖွဲ့ ၏ ၂၀၁၄ခုနှစ် အောက်တိုဘာလ ၉ ရက်နေ့ ရက်စွဲပါစာများ တင်ပြ ထားပါ သည်။

(ဂ) ပြန်ကြားရေးဝန်ကြီးဌာန၏ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၃၀ ရက်နေ့ ရက်စွဲပါ စာဖြင့် အဆိုပြုလုပ်ငန်းသည် ရွှေသံလွင် မီဒီယာကုမ္ပဏီမှ ထပ်မံတိုးချဲ့ဆောင် ရွက်မည့် စီမံကိန်းအပိုင်း(၂)ဖြစ်ပြီး မြေပြင်အခြေစိုက် ရုပ်မြင်သံကြား ထုတ်လွှင့် ခြင်းလုပ်ငန်းအား မြို့ကြီး (၄၀) မြို့တွင် လှိုင်းနှုန်းများ ခွဲဝေချထားပေးပြီး မြို့နယ် (၂၅၆) မြို့နယ်တွင် လွှင့်စက်များ တပ်ဆင်ခြင်း၊ လိုအပ်သောစက်ရုံများတွင် လွှင့် စက်ခန်းနှင့် တာဝါတိုင်တို့ကို ကုမ္ပဏီ၏ အစီအစဉ်ဖြင့် တပ်ဆင်ခြင်း၊ တည် ဆောက်ခြင်းလုပ်ငန်းတို့ကို မြန်မာ့အသံနှင့် ရုပ်မြင်သံကြားနှင့် ရွှေသံလွင်မီဒီယာ ကုမ္ပဏီတို့ နှစ်ဦးနှစ်ဖက် ဆွေးနွေးဆောင်ရွက်သွားမည်ဖြစ်ပြီး Indoor ၊ Outdoor ရိုက်ကူးရေးပစ္စည်းများ၊ ရိုက်ကူးရေးယာဉ်များ၊ စက်ပစ္စည်းသယ်ယူ မည့်ယာဉ်များ ဝယ်ယူခြင်း၊ IPTV ထုတ်လွှင့်ပြသခြင်း၊ ရေဒီယိုလွှင့်စက်များ၊ တာဝါတိုင်များ တည်ဆောက်တပ်ဆင်ခြင်း တို့ကို လည်း လုပ်ကိုင်ခွင့်ပြုထားပြီး ဖြစ်ကြောင်း ထောက်ခံတင်ပြသည့် အထောက်အထားများအား တင်ပြထားပါ သည်။

**ဆုံးဖြတ်ရန်အချက်**

၁၉။ ရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက် (Shwe Than Lwin Media Co., Ltd.) မှ ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊ အောက်ပုဇွန်တောင်လမ်း၊ မေယုအိမ်ရာဝင်း၊ မေယု လမ်းထိပ်၊ အမှတ်- ၁၃၉A+ ၁၇၁ A/ ၂၀၊ ၂၁၊ ၂၂၊ ၂၃၊ ၂၄၊ ၂၅၊ ၂၆၊ ၂၇ ရှိ မြေဧရိယာ (၁.၆၈၃) ဧက (၆၈၁၀.၈၇ စတုရန်းမီတာ) တွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရုပ်မြင်သံကြား ရိုက် ကူးထုတ်လုပ်ထုတ်လွှင့်ခြင်းနှင့် ဆက်စပ်သောဝန်ဆောင်မှုလုပ်ငန်းများ (စီမံကိန်း အဆင့်-၂)နှင့် စပ် လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

ထပ်ဆင့်လွှင့်စက်ရုံ ( ၆၃ )ရုံစာရင်း

| စဉ် | စက်ရုံအမည် | Power | Tx-1 | Tx-2 | Tx-3 | Tx-4 | Tx-5 | Tx-6 | Tx-7 | Tx-8 | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|---|---|
| ၁ | ရန်ကုန် | 3KW | * | * | * | * | * | * | * | * | |
| ၂ | ပျဉ်းမနား | 3KW | * | * | * | * | * | | | | |
| ၃ | စစ်ကိုင်း | 3KW | * | * | * | * | * | * | * | | |
| ၄ | မြစ်ကြီးနား | 500W | * | * | * | # | # | # | | | |
| ၅ | ဗန်းမော် | 500W | * | * | * | # | # | # | | | |
| ၆ | နမ္မ | 500W | * | * | * | # | # | # | | | |
| ၇ | မိုးကောင်း | 300W | * | * | * | # | # | # | | | |
| ၈ | ဖားကန့် | 300W | * | * | * | # | # | # | | | |
| ၉ | လွိုင်ကော် | 1KW | * | * | * | # | # | # | | | |
| ၁၀ | ဘားအံ | 1KW | * | * | * | # | # | # | | | |
| ၁၁ | မြဝတီ | 100W | * | * | * | # | # | # | | | |
| ၁၂ | ဟားခါး | 300W | * | * | * | # | # | # | | | |
| ၁၃ | ဖလမ်း | 500W | * | * | * | # | # | # | | | |
| ၁၄ | ကနေဒီ | 1KW | * | * | * | # | # | # | | | |
| ၁၅ | မုံရွာ | 3KW | * | * | * | # | # | # | | | |
| ၁၆ | ရေဦး | 3KW | * | * | * | # | # | # | | | |
| ၁၇ | ကန့်ဘလူ | 300W | * | * | * | # | # | # | | | |
| ၁၈ | ကောလင်း | 300W | * | * | * | # | # | # | | | |
| ၁၉ | ကသာ | 300W | * | * | * | # | # | # | | | |
| ၂၀ | အင်းတော် | 300W | * | * | * | # | # | # | | | |
| ၂၁ | တမူး | 100W | * | * | * | # | # | # | | | |
| ၂၂ | ထားဝယ် | 1KW | * | * | * | # | # | # | | | |
| ၂၃ | မြိတ် | 1KW | * | * | * | # | # | # | | | |
| ၂၄ | ကော့သောင်း | 300W | * | * | * | # | # | # | | | |
| ၂၅ | ပဲခူး | 1KW | * | * | * | # | # | # | | | |
| ၂၆ | ညောင်လေးပင် | 3KW | * | * | * | # | # | # | | | |
| ၂၇ | တောင်ငူ | 3KW | * | * | * | # | # | # | | | |
| ၂၈ | ပြည် | 3KW | * | * | * | # | # | # | | | |
| ၂၉ | မင်းလှ | 3KW | * | * | * | # | # | # | | | |
| ၃၀ | မင်းဘူး | 3KW | * | * | * | # | # | # | | | |
| ၃၁ | တောင်တွင်းကြီး | 3KW | * | * | * | # | # | # | | | |
| ၃၂ | ဂန့်ဂေါ | 300W | * | * | * | # | # | # | | | |

| | | | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|---|---|
| ၃၃ | ပခုက္ကူ | 1KW | * | * | * | # | # | # | | | |
| ၃၄ | ပုပ္ပါး | 3KW | * | * | * | # | # | # | | | |
| ၃၅ | မိတ္ထီလာ | 3KW | * | * | * | # | # | # | | | |
| ၃၆ | ပြင်ဦးလွင် | 300W | * | * | * | # | # | # | | | |
| ၃၇ | မိုးကုတ် | 300W | * | * | * | # | # | # | | | |
| ၃၈ | မော်လမြိုင် | 3KW | * | * | * | # | # | # | | | |
| ၃၉ | ဘီးလင်း | 1KW | * | * | * | # | # | # | | | |
| ၄၀ | ရေး | 300W | * | * | * | # | # | # | | | |
| ၄၁ | စစ်တွေ | 3KW | * | * | * | # | # | # | | | |
| ၄၂ | တောင်ကုတ် | 300W | * | * | * | # | # | # | | | |
| ၄၃ | သံတွဲ | 300W | * | * | * | # | # | # | | | |
| ၄၄ | ကျောက်ဖြူ | 300W | * | * | * | # | # | # | | | |
| ၄၅ | အမ်း | 300W | * | * | * | # | # | # | | | |
| ၄၆ | မောင်တော | 500W | * | * | * | # | # | # | | | |
| ၄၇ | တောင်ကြီး | 3KW | * | * | * | # | # | # | | | |
| ၄၈ | လားရှိုး | 500W | * | * | * | # | # | # | | | |
| ၄၉ | နောင်ချို | 300W | * | * | * | # | # | # | | | |
| ၅၀ | ကျောက်မဲ | 300W | * | * | * | # | # | # | | | |
| ၅၁ | သီပေါ | 300W | * | * | * | # | # | # | | | |
| ၅၂ | သိန္နီ | 100W | * | * | * | # | # | # | | | |
| ၅၃ | ကွတ်ခိုင် | 300W | * | * | * | # | # | # | | | |
| ၅၄ | မူဆယ် | 300W | * | * | * | # | # | # | | | |
| ၅၅ | လောက်ကိုင် | 300W | * | * | * | # | # | # | | | |
| ၅၆ | ကျိုင်းတုံ | 1KW | * | * | * | # | # | # | | | |
| ၅၇ | တာချီလိတ် | 500W | * | * | * | # | # | # | | | |
| ၅၈ | ပုသိမ် | 3KW | * | * | * | # | # | # | | | |
| ၅၉ | ကျောင်းကုန်း | 3KW | * | * | * | # | # | # | | | |
| ၆၀ | ဟသ်ာတ | 3KW | * | * | * | # | # | # | | | |
| ၆၁ | ဘိုကလေး | 3KW | * | * | * | # | # | # | | | |
| ၆၂ | လပွတ္တာ | 3KW | * | * | * | # | # | # | | | |
| ၆၃ | တပ်ကုန်း | 1KW | * | * | * | # | # | # | | | |

ပထမအဆင့် *

ဒုတိယအဆင့် #

စီမံကိန်းအပိုင်း(၂) အား အဆင့်(၃)ဆင့်ဖြင့် ခွဲခြားဆောင်ရွက်ခြင်း

(၁) **ပထမအဆင့်**

(က) မြို့ကြီး(၆၃)ခု၌ Analog/ digital Dual Mode လွှင့်စက် (၃)စုံစီကိုလည်းကောင်း၊ C- Band Uplinking System ကို လည်းကောင်း တပ်ဆင်ဆောင်ရွက်သွားပါမည်။

(ခ) ထို(၆၃)ရုံအနက် ရန်ကုန်၊ ပုပ္ပါးနှင့် တပ်ကုန်း ရုပ်သံလွှင့် (၃)ရုံတို့ကို MRTV နှင့် ပူးပေါင်းပြီးစက်များ တိုးချဲ့ တပ်ဆင်သွားမည်ဖြစ်ပြီး ကျန်လွှင့်စက်ရုံ (၆၀) ကို နေရာသစ် ရွေးချယ်၍ လိုအပ်သောအဆောက်အဦများ၊ တာဝါတိုင်များ လျှပ်စစ်ဓာတ်အားသွယ်ယူမှုများကို အသစ် တည်ဆောက်သွားမည် ဖြစ်သည်။

(၂) **ဒုတိယအဆင့်**

(က) လွှင့်စက်ရုံ(၆၃)ရုံ၌ ဒီဂျစ်တယ်ထုတ်လွှင့်ရေးအတွက် DVB-T2လွှင့်စက်(၃) စုံစီ ဖြည့်စွက်တပ်ဆင်ခြင်းနှင့် ဖိုက်ဘာ ကွန်ရက်ချိတ်ဆက်ခြင်း၊ Multiplatform/ Multi-service Unified Head End ကွန်ရက် တည်ဆောက်ခြင်းတို့ကို ဆောင်ရွက်သွားပါမည်။

(၃) **တတိယအဆင့်**

(က) MRTV မှ တည်ဆောက်ပြီး ရုပ်သံလွှင့်စက်ရုံ (၂၅၀)ခန့် အနက် ကျန်ရှိသော ရုပ်သံလွှင့်စက်ရုံ (၁၈၇) ရုံတို့တွင် DVB-T2 လွှင့်စက်(၃)စုံစီ တိုးချဲ့ တပ်ဆင်ခြင်းကို ဆောင်ရွက်သွားပါမည်။

(ခ) VHF Band III နှင့် Band II ဒီဂျစ်တယ် ရုပ်မြင်သံကြားနှင့် အသံလွှင့် ကွန်ရက်များ တိုးချဲ့ရေးအတွက် လည်းကောင်း၊ အင်တာနက်ကွန်ရက်မှ Video & Internet ၊ Video ၊ OTT Multimedia Services တို့ ဝန်ဆောင်မှုများ တိုးချဲ့ရေးအတွက်လည်းကောင်း၊ Multimedia Service များကို တိုးချဲ့ရေး အတွက်လည်းကောင်း၊ လိုအပ်သော Network Infrastructure များ တည်ဆောက်ဆောင်ရွက်သွားပါမည်။

## ရှေသံလွှင့်ကုမ္ပဏီမှ MRTV ၏ Infrastructure ငှားရမ်းခအတွက် ပေးသွင်းရမည့်ငွေကြေး တွက်ချက်မှု

(၁) Transmitter ထားမည့်
စက်ခန်းနေရာ ငှားရမ်းခ - 3000 W × 1000 Ks per Watt = (၃၀) သိန်း

(၂) Antenna တပ်ဆင်မည့်
Tower နေရာ ငှားရမ်းခ - 200 Kg × 1000 Ks per Kg = (၂) သိန်း

(၃) Bandwidth လိုင်းနှုန်းကြေး (Free to Air) Channel တစ်ခုလျှင် = (၅၀) သိန်း

(၄) ခွင့်ပြုထားသော မြို့ကြီး (၃)မြို့တွင် ရန်ကုန်မြို့ရှိ Tower တိုင်နှင့် စက်ခန်းနေရာ (Infrastructure) မှာ MRTV နှင့် ရှေသံလွှင့်ကုမ္ပဏီတို့ ပူးပေါင်းရင်းနှီးမြှုပ်နှံမှု ပြုထားသဖြင့် ရန်ကုန်မြို့အတွက် တွက်ချက်ခြင်းမပြုပါ။

(၅) သို့ဖြစ်၍ နေပြည်တော်နှင့် စစ်ကိုင်းမြို့များအတွက် အောက်ပါအတိုင်း လစဉ် ပေးသွင်းရမည်-

(က) Transmitter ထားမည့် စက်ခန်းနေရာ ငှားရမ်းခ
စက်တစ်လုံးလျှင် (၃၀)သိန်း × ၅ လုံး = ကျပ် (၁၅၀) သိန်း

(ခ) Antenna တပ်ဆင်မည့် Tower နေရာ ငှားရမ်းခ
200 Kg လျှင် (၂) သိန်း × ၂ ခု = ကျပ် (၄) သိန်း

(ဂ) Bandwidth ငှားရမ်းခ (Free to Air)
1 Channel လျှင် (၅၀)သိန်း × ၅ ခု = ကျပ် (၂၅၀) သိန်း

စုစုပေါင်း = ကျပ် (၄၀၄)သိန်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် | နောက်ဆက်တွဲ-ဃ

တိုင်းဒေသကြီးအစိုးရအဖွဲ့

ရန်ကုန်တိုင်းဒေသကြီး

တိုင်းဒေသကြီးအစိုးရအဖွဲ့ စာအမှတ် ၃၃၃၃ ရက်စွဲ ၂.၁၂.၁၅ ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာ လ ၁ ရက်

14-811
12.2015

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၅. ၁၁. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရကာ - ၅(အ)/ မ-၀၀၅ / ၂၀၁၅ (၃၇၄)

၁။ ရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက် (Shwe Than Lwin Media Co., Ltd.) မှ ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊ အောက်ပုဇွန်တောင်လမ်း၊ မေယုလမ်းထိပ်၊ မေယုအိမ်ရာဝင်း၊ အမှတ်(၁၃၉-အေ)/ (၁၇၁-အေ)၊ (၂၀-၂၁-၂၂-၂၃-၂၄-၂၅-၂၆-၂၇)ရှိ မြေဧရိယာ (၁. ၆၈၃)ဧက (၆၈၁၀. ၈၇ စတုရန်းမီတာ)တွင် ရုပ်မြင်သံကြားရိုက်ကူး၊ ထုတ်လုပ်၊ ထုတ်လွှင့်ခြင်းနှင့် ဆက်စပ်သောဝန်ဆောင်မှုလုပ်ငန်းများ (စီမံကိန်းအဆင့်-၂)အား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၇၅၆)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တထောင်မြို့နယ်၊ အောက်ပုဇွန်တောင်လမ်း၊ မေယုလမ်းထိပ်၊ မေယုအိမ်ရာဝင်း၊ အမှတ်(၁၃၉-အေ)/ (၁၇၁-အေ)၊ (၂၀-၂၁-၂၂-၂၃-၂၄-၂၅-၂၆-၂၇)ရှိ မြေဧရိယာ (၁. ၆၈၃)ဧက (၆၈၁၀. ၈၇ စတုရန်းမီတာ)အား တစ်နှစ်လျှင် (၁၁၄၀၀၀၀၀၀ိ/-)၊ တစ်လလျှင်(၉၅၀၀၀၀၀ိ/-)(1sqft=1296 ကျပ်၊ 1sqm=13861ကျပ်)နှုန်းဖြင့် (၁. ၉. ၂၀၁၅)ရက်နေ့မှ (၃၁. ၈. ၂၀၂၅)ရက်နေ့အထိ (၁၀)နှစ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

D/2015/Cabinet/54.,(1)

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့်(၂၇. ၁၁. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၅၄/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၅၂)အရ ရွှေသံလွင်မီဒီယာ ကုမ္ပဏီလီမိတက် (Shwe Than Lwin Media Co., Ltd.) ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

အတွင်းရေးမှူး၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဗိုလ်တထောင်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက် (Shwe Than Lwin Media Co., Ltd.)
လက်ခံစာတွဲ
မျှောစာတွဲ

D/2015/Cabinet/54.(2)

နောက်ဆက်တွဲ-င

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

DT. 5328
25.11.15

စာအမှတ် ၃(၂)/၁၆(ဃ)(၆)/( ၃၂၆၅ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ၂၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၅-၁၁-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၅(အ) / မ - ၀၀၅ / ၂၀၁၅ (၃၇၃)

၁။ ရွှေသံလွင် မီဒီယာကုမ္ပဏီလီမိတက် ( Shwe Than Lwin Media Co.,Ltd ) မှ ရန်ကုန်တိုင်းဒေသကြီး၊ ဗိုလ်တစ်ထောင်မြို့နယ်၊ အောက်ပုစွန်တောင်လမ်း၊ မေယုလမ်းထိပ်၊ မေယုအိမ်ရာဝင်း၊ အမှတ်(၁၃၉-အေ) / (၁၇၁-အေ)၊ (၂၀၊ ၂၁၊ ၂၂၊ ၂၃၊ ၂၄၊ ၂၅၊ ၂၆၊ ၂၇)ရှိ မြေဧရိယာ (၁.၆၈၃)ဧက (၆၈၁၀.၈၇ စတုရန်းမီတာ) တွင် ရုပ်မြင်သံကြားရိုက်ကူး၊ ထုတ်လုပ်၊ ထုတ်လွှင့်ခြင်းနှင့် ဆက်စပ်သော ဝန်ဆောင်မှုလုပ်ငန်းများ (စီမံကိန်းအဆင့် - ၂) အား ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် ပတ်သက်၍ စိစစ်ပြီးဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ရုပ်သံရိုက်ကူးရန် လိုအပ်သော Indoor Studio များ၊ ရုပ်သံထုတ်လွှင့်မည့် တာဝါတိုင်များ၊ TV Station များ စသည့် Network infrastructure များ တည်ဆောက်မည်ဖြစ်သောကြောင့် တည်ဆောက်ရေးလုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဖုန်မှုန့်များ ၊ တုန်ခါမှုများ၊ ယာဉ်/ ယန္တရားများမှ ထွက်ရှိလာမည့် ဆူညံသံ၊ စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များ၊ ရုပ်သံရိုက်ကူးထုတ်လွှင့်ရေးယာဉ်များ၊ စက်ပစ္စည်းကိရိယာသယ်ယူပို့ဆောင်ရေးယာဉ်များမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များ၊ လုပ်ငန်းခွင်မှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း အစိုင်အခဲ၊ အရည်၊ အခိုးအငွေ့၊ အသံ စသည်တို့ကို စနစ်တကျစီမံခန့်ခွဲမှုမပြုလုပ်ပါက ပတ်ဝန်းကျင်ရှိရေထု၊ လေထု၊ မြေထု ညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း၊ လုပ်ငန်းသုံး စက်ပစ္စည်းများကြောင့် အသံဆူညံမှုဖြစ်ခြင်း စသော ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်စေနိုင်ပါသည်။

၃။ သို့ဖြစ်ပါ၍ ရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက် Shwe Than Lwin Media Co.,Ltd မှ ရုပ်မြင်သံကြားရိုက်ကူး၊ ထုတ်လုပ်၊ ထုတ်လွှင့်ခြင်းနှင့် ဆက်စပ်သော ဝန်ဆောင်မှုလုပ်ငန်းများ

(စီမံကိန်းအဆင့် - ၂) ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးအတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းစနစ်များ အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင်ပါဝင်သည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု (CSR) လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏ (၃%)အား အသုံးပြုရန်အပါအဝင် ကတိကဝတ်များနှင့် လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ခ) ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု စီမံချက် (Environmental Management Plan - EMP) ရေးဆွဲ၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနသို့ တင်ပြရန်နှင့် EMP အစီအစဉ်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ ၊ နည်းဥပဒေ ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့် အညီလိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထား ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ခင်မောင်ရီ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြန်ကြားရေးဝန်ကြီးဌာန

စာအမှတ်၊ ၃ - ၉( ၂ / ၂၀၁၅ ) / ၄၉၈

ရက်စွဲ၊ ၂၀၁၅ခုနှစ်၊အောက်တိုဘာလ ၂၉ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Master Plan အရ ထပ်မံတိုးချဲ့ဆောင်ရွက်ရန်ကျန်ရှိသည့် ရုပ်မြင်သံကြားလိုင်းသစ်များ ထုတ်လွှင့်ခြင်းဆိုင်ရာ လုပ်ငန်းရပ်များကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီလုပ်ကိုင်ဆောင်ရွက်ခွင့်ရရှိရေးအတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာပေးပို့ တင်ပြခြင်း**

၁။ ရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက်သည် ရုပ်မြင်သံကြားအစီအစဉ်များ ရိုက်ကူး ထုတ်လုပ် ထုတ်လွှင့် ပြသခြင်းလုပ်ငန်းကို ပြည်ထောင်စုမြန်မာနိုင်ငံတော် ၊ နိုင်ငံတော်အစိုးရအဖွဲ့၏ အမိန့်ကြော်ငြာစာအမှတ် (၇၁/၂၀၁၀) ၁၁-၈-၂၀၁၀ အရ လုပ်ကိုင် ဆောင်ရွက်လျက် ရှိပါသည်။

၂။ သို့ဖြစ်ရာ ရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက်၏ Master Plan အရ ထပ်မံတိုးချဲ့ ဆောင်ရွက်ရန်ကျန်ရှိသည့် ရုပ်မြင်သံကြားလိုင်းသစ်များ ထုတ်လွှင့်ခြင်းဆိုင်ရာ လုပ်ငန်းရပ်များကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ခွင့်ရရှိရေးအတွက် လိုအပ်သလို ဆောင်ရွက်နိုင်ပါရန် အဆိုပြုလွှာ ပေးပို့တင်ပြအပ်ပါသည်။

( ရဲထွဋ် )

ပြည်ထောင်စုဝန်ကြီး

မိတ္တူကို

ရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက်

ရုံးလက်ခံ

# ပြန်ကြားရေးဝန်ကြီးဌာန၊
# မြန်မာ့အသံနှင့်ရုပ်မြင်သံကြား
# နှင့်
# ရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက်
# တို့
# ချုပ်ဆိုသည့်
# သဘောတူစာချုပ်

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ပြန်ကြားရေးဝန်ကြီးဌာန
မြန်မာ့အသံနှင့် ရုပ်မြင်သံကြား

နှင့်

**Shwe Than Lwin Media Company Limited**

တို့၏

Myanmar International ရုပ်/သံ လိုင်းသစ် (MITV Channel)
ထုတ်လွှင့်ခြင်း (Broadcasting) လုပ်ငန်းကို ပူးပေါင်းဆောင်ရွက်ရေး

နှင့်

(DTH) စနစ်ဖြင့် ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရေး

# သဘောတူစာချုပ်

၂၀၁၀ ခုနှစ်၊ ဇူလိုင်လ ၂၈ ရက်

## သဘောတူစာချုပ် (မာတိကာ)

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**

**ပြန်ကြားရေးဝန်ကြီးဌာန**

**မြန်မာ့အသံနှင့် ရုပ်မြင်သံကြား**

**နှင့်**

**Shwe Than Lwin Media Company Limited**

**တို့၏**

Myanmar International ရုပ်/သံ လိုင်းသစ် (MITV Channel)

ထုတ်လွှင့်ခြင်း (Broadcasting) လုပ်ငန်းကို ပူးပေါင်းဆောင်ရွက်ရေး

**နှင့်**

(DTH) စနစ်ဖြင့် ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရေး

# သဘောတူစာချုပ်

ဤသဘောတူစာချုပ်ကို နေပြည်တော်၌ ၂၀၁၀ ခုနှစ်၊ ဇူလိုင် လ၊ ၂၈ ရက်နေ့တွင် **ညွှန်ကြားရေးမှူးချုပ်၊ ဦးခင်မောင်ဌေး** ကိုယ်စားပြုသော မြန်မာ့အသံနှင့် ရုပ်မြင်သံကြား၊ နေပြည်တော် (ဤမှနောက်တွင် **" လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ "** ဟု ရည်ညွှန်းခေါ်ဆိုရမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင် ကွဲလွဲခြင်းမရှိပါက ယင်း၏ ဆက်ခံသူများ ပါဝင်သည်ဟု မှတ်ယူရမည် ) က တစ်ဖက်

**နှင့်**

**ဒေါ်စန္ဒာဝင်း၊ ဒါရိုက်တာ၊ ရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက်** ကိုယ်စားပြုသော ရန်ကုန်မြို့၊ ဗိုလ်တထောင်မြို့နယ်၊ အမှတ် (၂၆၂)၊ အောက်ပုဇွန်တောင်လမ်း၊ ရာဇဓိရာဇ်အိမ်ရာဝင်းတွင် မှတ်ပုံတင် ရုံးခန်းတည်ထောင်ဖွင့်လှစ်ထားသော Shwe Than Lwin Media Company Limited (ဤမှ နောက်တွင် **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** ဟု ရည်ညွှန်းခေါ်ဆိုရမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက် ဆန့်ကျင် ကွဲလွဲခြင်းမရှိပါက ယင်း၏ ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခံရသူများ ပါဝင်သည်ဟု မှတ်ယူရမည်)က အခြားတစ်ဖက်တို့သည် အောက်ပါ စည်းကမ်းချက်များအတိုင်း လိုက်နာ၍ လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ရန်အတွက် နှစ်ဦးနှစ်ဖက် သဘောတူစာချုပ်ကို ချုပ်ဆိုကြပါသည်။

SHWE THAN LWIN MEDIA CO.,LTD.

၁။ ရည်ရွယ်ချက်

(က) " လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ " က လက်ရှိ ထုတ်လွှင့်နေသော MRTV-3 မူလအစီအစဉ်အား "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" နှင့် ပူးပေါင်း၍ MITV Channel အမည်သစ်ဖြင့် နိုင်ငံတကာ အဆင့်မီသော ရုပ်/သံ အစီအစဉ်များကို တိုးတက်သော ထုတ်လွှင့်မှုအသွင်သစ် အမြင်သစ်ဖြင့် Global Coverage ဖြစ်လာအောင် ထုတ်လွှင့်ရန် ၊

(ခ) MITV Channel တွင် ရုပ်ရှင်၊ ဗွီဒီယို ၊ အားကစား၊ တေးဂီတ အစရှိသည့် ဖျော်ဖြေရေးအစီအစဉ်များ၊ ပညာပေးအစီအစဉ်များနှင့် သတင်းများကို ပြည်တွင်းပြည်ပသို့ ဂြိုလ်တုမှ ထုတ်လွှင့်ရန်နှင့် နောင်တွင် တိုးတက်လာသည့် နည်းပညာနှင့် ညှိနှိုင်းရရှိလာမည့် အခြေအနေများအရ Cable TV (CATV) ကွန်ယက်များမှလည်းကောင်း၊ မြေပြင်အခြေစိုက် ရုပ်/သံ ထပ်ဆင့်ထုတ်လွှင့်ရေးကွန်ယက်များမှ လည်းကောင်း ထုတ်လွှင့်ပေးရန် ၊

(ဂ) မြန်မာနိုင်ငံတစ်ဝန်းလုံး ကျေးလက်ဒေသများပါမကျန် အောက်ခြေအလွှာ (Grass-root Level) အထိ အဆင့်အတန်းမီသော DTH စနစ်ဖြင့် ပြန်ကြားရေး၊ ပညာပေးရေးနှင့် ဖျော်ဖြေရေး အစီအစဉ်များကို အဖိုးနှုန်းချိုသာစွာဖြင့် ကြည့်ရှုခံစားနိုင်ရန်အတွက် "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" မှ ထုတ်လွှင့်ပေးရန်၊

(ဃ) မြန်မာနိုင်ငံ၏ နိုင်ငံရေး၊ စီးပွားရေး၊ လူမှုရေး၊ ယဉ်ကျေးမှု ၊ အချုပ်အခြာအာဏာပိုင်စိုးမှုကို ပြည်တွင်းမီဒီယာဖြင့် ထိရောက်စွာ လွှမ်းမိုးထားနိုင်ရန်နှင့် ပြည်ပမှ တရားမဝင် မီဒီယာများ ထိုးဖောက်ဝင်ရောက်မှုကို ထိရောက်စွာ ဟန့်တားနိုင်ရန် ၊

(င) ပြည်ပရောက် မြန်မာနိုင်ငံသားများအနေဖြင့်လည်း မြန်မာနိုင်ငံ၏ ပကတိ အခြေအနေမှန်ကို သိရှိစေရန်နှင့် မြန်မာ့ရိုးရာ ယဉ်ကျေးမှု ဓလေ့ထုံးစံများကို မပြတ်ထိတွေ့ခံစားနိုင်စေရန် ၊

(စ) နိုင်ငံတော်အတွက် ဝင်ငွေတိုးတက်ရရှိစေရန် ၊

(ဆ) ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခြင်းဖြင့် ပြည်တွင်းစီးပွားရေးလုပ်ငန်းများနှင့် ပြည်တွင်း ရုပ်/သံ မီဒီယာလုပ်ငန်းများ ရှင်သန်ဖွံ့ဖြိုးစေရန် ၊

(ဇ) မြန်မာ့အသံနှင့် ရုပ်မြင်သံကြားလုပ်ငန်းများတွင် ရေရှည်အကျိုးတူလုပ်ငန်းများကို နှစ်ဦးနှစ်ဖက် ညှိနှိုင်းတိုးချဲ့ဆောင်ရွက်ရန် ၊

၂။ ဆောင်ရွက်မည့်လုပ်ငန်း

(က) အထက်အပိုဒ် (၁) ပါလုပ်ငန်းများကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" အား အကောင်အထည်ဖော် ဆောင်ရွက်ခွင့်ပြုမည်ဖြစ်သည်။

(ခ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည် လုပ်ငန်းတစ်ခုလုံးအတွက် တာဝန်ယူရသည့် အဖွဲ့အစည်းဖြစ်သည်။

(ဂ) လုပ်ငန်းလုပ်ဆောင်ရာတွင် -

(၁) **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** သည် MRTV -3 အား MITV အဖြစ် Rebranding ပြုလုပ်၍ ဆက်လက်ထုတ်လွှင့်သည့်လုပ်ငန်းတွင် မူဝါဒကို ချမှတ်ဆောင်ရွက်မည့် အဖွဲ့အစည်းဖြစ်ပါသည်။

(၂) **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** သည် လုပ်ငန်းကို အောင်မြင်စွာ ဆောင်ရွက်နိုင်ရန်အတွက် မိမိ၏ဝန်ဆောင်မှု၊ ကျွမ်းကျင်မှုနှင့် လိုအပ်သော စက်ပစ္စည်းနှင့် စက်ကိရိယာများ၊ ငွေကြေး ပံ့ပိုးမှုများကို ဤစာချုပ် အပိုဒ် ၆ ပါအတိုင်း တာဝန်ယူဆောင်ရွက်မည့် အဖွဲ့အစည်းဖြစ်ပြီး စာချုပ် အပိုဒ် ၆ပါ လုပ်ငန်းတာဝန်များ၏ စီမံခန့်ခွဲမှု (Management) ကို ကိုင်တွယ်ဆောင်ရွက်မည့် အဖွဲ့အစည်းလည်းဖြစ်သည်။

(ဃ) **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** သည် **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** အား အောက်ပါဝန်ဆောင်မှု လုပ်ငန်းများကို ဆောင်ရွက်ခွင့်ပြုရမည်ဖြစ်သည် -

(၁) လက်ရှိ MRTV-3 အား MITV အဖြစ် MRTV နှင့်ပူးပေါင်းကာ Rebranding ပြုလုပ်၍ ဆက်လက်ထုတ်လွှင့်ခြင်းလုပ်ငန်း ၊

(၂) ရုပ်/သံ လိုင်းများကို ဂြိုလ်တုမှတဆင့် နေအိမ်သို့အရောက် တိုက်ရိုက်ထုတ်လွှင့်သည့် DTH စနစ် (Direct to Home Satellite TV Transmission System) ကို အကောင်အထည်ဖော် ဆောင်ရွက်ခြင်းလုပ်ငန်း (ရုပ်/သံ လိုင်းများကို ဂြိုလ်တုမှတဆင့် ထုတ်လွှင့်ပြီး ဂြိုလ်တုစလောင်းနှင့် ဒစ်ဂျစ်တယ် ရုပ်/သံ ဖမ်းစက်ဖြင့် ဖမ်းယူကြည့်ရှုနိုင်စေသောလုပ်ငန်း)

(၃) **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** အနေဖြင့် ဆောင်ရွက်လိုပါက Free to Air TV Channel အသစ်နှစ်ခုကို အကောင်အထည်ဖော်ဆောင်ရွက်ပြီး ယင်း Channel (၂)ခုကို DTH စနစ်တွင် ထည့်သွင်း၍ ထုတ်လွှင့်ခြင်းလုပ်ငန်း ၊

(၄) MRTV ၏ Free to Air Channels များဖြစ်သော MRTV, MRTV - 4 နှင့် MITV တို့ကို DTH စနစ်တွင် ထည့်သွင်း၍ ထုတ်လွှင့်ပေးသောလုပ်ငန်း ၊

(၅) ကြည့်ရှုသူ (Subscriber) ထံမှ အခကြေးငွေ ကောက်ခံသော Pay TV လုပ်ငန်း ၊

(င) MRTV-3 Rebranding ကိစ္စကို ဆောင်ရွက်ရာ၌ ပြန်ကြားရေးဝန်ကြီးဌာန၏ မူဝါဒကြီးကြပ်မှုအောက် တွင် **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** ၏ ကိုယ်စားလှယ်များနှင့် **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** ၏ ကိုယ်စားလှယ်များ ပါဝင်သော ဒါရိုက်တာအဖွဲ့ (Board of Director) ကို ဖွဲ့စည်းပြီး၊ ယင်းဒါရိုက်တာ အဖွဲ့က ပြန်ကြားရေးဝန်ကြီးဌာန၏ မူဝါဒနှင့်အညီ ရည်ရွယ်ချက်များကို အကောင်အထည်ဖော် ဆောင်ရွက်မည်ဖြစ်သည်။ ဒါရိုက်တာအဖွဲ့အောက်တွင် လိုအပ်သော လုပ်ငန်းအဖွဲ့များကိုလည်း ဖွဲ့စည်း ဆောင်ရွက်ရမည်ဖြစ်ပါသည်။

(စ) စာချုပ်၏စာပိုဒ် ၂(ဃ)(၁) မှ ၂(ဃ) (၄) ထိပါ ဝန်ဆောင်မှုလုပ်ငန်း (၄)ရပ်သည် နည်းပညာရပ်ကျယ်ပြန့် ပြီး ရင်းနှီးမြှုပ်နှံမှု ကြီးမားပါသည်။ သို့ဖြစ်ပါ၍ ဖော်ပြပါလုပ်ငန်းများကို အောင်မြင်ထိရောက်စွာ အကောင်အထည်ဖော်ရန်နှင့် ရေရှည် တည်တံ့ခိုင်မြဲရေးတို့အတွက် **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** သည် ဝန်ဆောင်မှု၊ ကျွမ်းကျင်မှု၊ နည်းပညာနှင့် ရင်းနှီးမြှုပ်နှံမှု ကိစ္စရပ်များတွင် အခြားသော ပြည်တွင်း ပြည်ပ ကုမ္ပဏီများနှင့် အကျိုးတူပူပေါင်း ဆောင်ရွက်ရမည်ဖြစ်ပါသည်။

SHWE THAN LWIN MEDIA CO.,LTD.

(ဆ) အထက်ပါဝန်ဆောင်မှုလုပ်ငန်းများတွင် ကြော်ငြာထည့်သွင်းခြင်းလုပ်ငန်းအပါအဝင် ဖြစ်ထွန်းလာသော လုပ်ငန်းများမှ ရရှိသည့် ဝင်ငွေများအနက်မှ ဥပဒေအရ ပေးဆောင်ရန်ရှိသည့် နိုင်ငံတော်သို့ ပေးဆောင်ရမည့် အခွန်အခအားလုံးကို ပေးဆောင်ပြီး ကျန်ရှိသည့် ငွေကြေးကို သတ်မှတ်ရာခိုင်နှုန်း အချိုးအစားဖြင့် **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** အား ခံစားခွင့်ပြုရမည်ဖြစ်ပါသည်။

(ဇ) **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** နှင့် **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** တို့ ပူးပေါင်းဖွဲ့စည်းထားသည့် အဖွဲ့မှ သတ်မှတ်အတည်ပြုထားချက်နှင့်အညီ ကြော်ငြာဝင်ငွေများ၊ ကြည့်ရှုသူထံမှ အခကြေးငွေ ကောက်ခံရရှိသောဝင်ငွေများ (Subscription Fee) နှင့် Conditional Access (CA) စာရင်းတို့ကို **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** က ကောက်ခံထိန်းသိမ်း၍ **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** နှင့် **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** တို့အဖွဲ့နှင့်ဖြစ်စေ၊ **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** နှင့် **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** တို့မှ အဆိုပြုထားသောသူများနှင့်ဖြစ်စေ၊ အဖွဲ့တစ်ခု ဖွဲ့စည်းပြီး (၁)လလျှင် တစ်ကြိမ် (သို့မဟုတ်) သင့်လျော်သလို စစ်ဆေးစိစစ်သွားရန် ဖြစ်ပါသည်။

၃။ <u>ထုတ်လွှင့်ပြသမည့်စနစ်များ</u>

**"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** သည် မြန်မာနိုင်ငံတော်၏ မူဝါဒနှင့်အညီ သင့်လျော်သော ထုတ်လွှင့်မှုစနစ်များကို အသုံးပြုနိုင်သည်။ ယင်းစနစ်များတွင် အောက်ပါထုတ်လွှင့်ပြသမည့် စနစ်များလည်း အကျုံးဝင်ပါဝင်ပါသည် -

(က) ဂြိုလ်တုမှတဆင့် DTH (Direct To Home - Via Satellite), DVB-S (Digital Video Broadcasting Via Satellite), DVB - S2 (Digital Video Broadcasting-Satellite) နှင့် Streaming Video စနစ်၊ On Demand စနစ်နှင့် Pay Perview တို့ဖြင့် ထုတ်လွှင့်ပြသခြင်း ။

(ခ) တစ်ဦးဦးက တည်ထောင်ထားသော DVB-H (Digital Video Broadcasting to Handheld) စနစ် တွင် ထည့်သွင်းထုတ်လွှင့် ပြသခြင်း၊

(ဂ) ရန်ကုန်၊ မန္တလေး စသည့်မြို့ကြီးများတွင် Analogue စနစ် သီးခြားလွှင့်စက်ဖြင့် Myanmar International Channel နှင့် Free to Air Channel အသစ် (၂) ခုကို ထုတ်လွှင့်ပြသခြင်း ။

(ဃ) တစ်ဦးဦးကတည်ထောင်ထားသော Cable စနစ်တွင် Interactive TV, MHP (Multimedia Home Platform) စနစ်ဖြင့်လည်းကောင်း၊ On Demand စနစ်နှင့် Pay Perview စနစ်ဖြင့်လည်းကောင်း ထည့်သွင်းထုတ်လွှင့်ပြသခြင်း ၊

(င) HD(High Definition) စနစ်ဖြင့် ထုတ်လွှင့်ပြသခြင်း ၊

(စ) တစ်ဦးဦးက တည်ထောင်ထားသော IPTV (Internet Protocol Television) စနစ်တွင် ထည့်သွင်း ထုတ်လွှင့်ပြသခြင်း ။

SHWE THAN LWIN MEDIA CO.,LTD.

၄။ **ထုတ်လွှင့်ပြသမည့်အစီအစဉ်များ**

**"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" သည်** ပြည်တွင်း/ပြည်ပမှ ထုတ်လုပ်သည့် ရုပ်ရှင်၊ ဗွီဒီယို၊ တေးဂီတ၊ အားကစား အစီအစဉ်များ၊ ရုပ်/သံ **စီးရီးများ Live Contents**၊ ဗဟုသုတရရှိမည့် သိပ္ပံနှင့် နည်းပညာများ၊ ပညာရေး၊ ကျန်းမာရေး၊ စိုက်ပျိုးမွေးမြူရေး၊ ထုတ်လုပ်ရေး၊ တည်ဆောက်ရေးနှင့် ပို့ဆောင်ရေး စသည့်အစီအစဉ်များ၊ ဖျော်ဖြေရေး အစီအစဉ်များနှင့် သတင်းအချက်အလက်များ၊ အထွေထွေဗဟုသုတများ၊ ဘာသာရေးဗဟုသုတများကို ထုတ်လွှင့်ရမည်။

၅။ **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ တာဝန်များ**

(က) MITV ရုပ်/သံ လုပ်ငန်းအတွက် **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** က **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** အား အောက်ပါတို့ကို အခမဲ့ ပူးတွဲသုံးစွဲခွင့်ပြုမည် -

(၁) MRTV ပိုင် Satellite Uplinking System များ၊

(၂) MRTV ပိုင် Studio များ၊ Editing Suite များ၊ ကင်မရာများ စသည့် ရိုက်ကူးထုတ်လုပ်ရေးနှင့် ထုတ်လွှင့်ရေးဆိုင်ရာ စက်ပစ္စည်းများ၊

(၃) MRTV ပိုင် သင့်လျော်သော ရုံးခန်းနှင့် စက်ခန်းနေရာများ၊

(ခ) ထုတ်လုပ်မှုနှင့်စပ်လျဉ်း၍ လိုအပ်သောထုတ်လုပ်မှု ရာနှုန်းပြည့်မီစေရန် နှစ်ဖက်ပူးပေါင်း ညှိနှိုင်း ဆောင်ရွက်ရမည်။

(ဂ) လုပ်ငန်းသုံး စက်ပစ္စည်း ဖြည့်တင်းရေးကိစ္စတွင် ဘတ်ဂျက်ခွင့်ပြုချက်အရ ဝယ်ယူရရှိသည်များကို ခွဲဝေသုံးစွဲရန်ဖြစ်ပြီး ထပ်မံလိုအပ်သည်များကို **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** က ဝယ်ယူဖြည့်တင်းရမည်။

(ဃ) DTH စနစ် ဝန်ဆောင်မှုလုပ်ငန်းအတွက် **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** က **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ "** အား အောက်ပါတို့ကို အခမဲ့ ပူးတွဲသုံးစွဲခွင့်ပြုမည် -

(၁) နေပြည်တော်၊ တပ်ကုန်းရှိ MRTV ပိုင် 11 M Ku-Band Uplinking System

(၂) MRTV ပိုင် ရုပ်မြင်သံကြား ထုတ်လုပ်ရေး စတူဒီယိုများ၊

(၃) MRTV ပိုင် သင့်လျော်သော ရုံးခန်းနှင့် စက်ခန်းနေရာများ၊

(င) **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က** MITV Channel အသစ်၏ အစီအစဉ်များကို လိုအပ်သလို စစ်ဆေး တည်းဖြတ်၍ ထုတ်လွှင့်ပေးရန်၊

(စ) **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** သည် **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** အား ရုပ်/သံလိုင်းများ ထုတ်လွှင့်နိုင်ရန်အတွက် Satellite Transponder ငှားရမ်းရေးတွင် လိုအပ်သည်များကို ကူညီပံ့ပိုးပေးရန် နှင့် နည်းပညာပိုင်းဆိုင်ရာ စံညွှန်းသတ်မှတ်ချက်များကို ဆောင်ရွက်ပေးရန်၊

(ဆ) အခကြေးငွေ ပေးချေဝယ်ယူရမည့် အစီအစဉ်များနှင့်စပ်လျဉ်းသည့် မူပိုင်ခွင့်များကို သင့်လျော်သော ဈေးနှုန်းဖြင့် **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** က ဝယ်ယူရရှိနိုင်ရန် သက်ဆိုင်ရာဌာန အဖွဲ့အစည်းများနှင့် လိုအပ်သလို ညှိနှိုင်းဆောင်ရွက်ပေးရန်၊

(ဇ) ထုတ်လွှင့်မည့် ပြည်တွင်း/နိုင်ငံခြား ရုပ်ရှင်၊ ဗွီဒီယို၊ တေးဂီတ (Content) များအတွက် ဆင်ဆာခွင့်ပြုချက်များရရှိရေးနှင့် အဆင်ပြေချောမွေ့ရေးအတွက် လိုအပ်သည်များကို ကူညီပံ့ပိုးဆောင်ရွက်ပေးရန် ၊

(ဈ) ဤစာချုပ်ပါ ရည်ရွယ်ချက်များ အောင်မြင်ရန်အလို့ငှာ အထက်အပိုဒ် ၂(ဃ)ပါ ဆောင်ရွက်မည့်လုပ်ငန်းများကို လုပ်ကိုင်အကောင်အထည်ဖော်ရန်အတွက် သက်ဆိုင်ရာ အစိုးရအဖွဲ့အစည်း၊ ဌာနအသီးသီးတို့မှ လိုအပ်သော ခွင့်ပြုမိန့်၊ ပါမစ်၊ လိုင်စင်များရရှိရေးအတွက် ကူညီဆောင်ရွက်ပေးရန် ၊

(ည) အပိုဒ် ၂(ဃ) တွင် ဖော်ပြထားသော လုပ်ငန်းများတွင် ထုတ်လွှင့်ပြသမည့် အစီအစဉ်များအတွက် ကြည့်ရှုသုံးစွဲသူများထံမှ ငှားရမ်းကြည့်ရှုခကို **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** ကိုယ်စား **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** က ကောက်ခံခွင့်ပြုရန်နှင့် အပိုဒ် ၈(က) တွင် ဖော်ပြပါရှိသည့် သတ်မှတ်ရာခိုင်နှုန်း အချိုးအစားဖြင့် **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** ကို ခံစားခွင့်ပြုရန် ၊

(ဋ) အပိုဒ် ၂ (ဃ) တွင် ဖော်ပြထားသော လုပ်ငန်းများတွင် ထုတ်လွှင့်ပြသမည့် အစီအစဉ်များအတွက် ကြော်ငြာကောက်ခံခြင်းလုပ်ငန်းအား **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** ၏ကိုယ်စား **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** ကို ကောက်ခံခွင့်ပြုရန်နှင့် အပိုဒ် ၈ (ခ) တွင် ဖော်ပြပါရှိသည့် သတ်မှတ်ရာခိုင်နှုန်း အချိုးအစားဖြင့် **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** အား ခံစားခွင့်ပြုရန် ၊

၆။ <u>"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" ၏ တာဝန်များ</u>

(က) MITV Global Coverage တိုးချဲ့နိုင်ရန်အလို့ငှာ လိုအပ်သော သတ်မှတ်ထားသည့် Satellite Beam (၃)ခုကို ငှားရမ်းပေးရန် ၊

(ခ) Direct to Home Satellite TV Transmission System (DTH) ဆောင်ရွက်နိုင်ရန်အတွက် **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** က Satellite Transponder ငှားရမ်းခြင်းကို ယင်း၏ အစီအစဉ်ဖြင့် ဆောင်ရွက်ရန် ၊

(ဂ) DTH လုပ်ငန်းအတွက် လိုအပ်မည့် စက်ပစ္စည်းကိရိယာများကိုလည်း **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** က ယင်း၏အစီအစဉ်ဖြင့် ဝယ်ယူတပ်ဆင်ရန်၊

(ဃ) MITV ထုတ်လွှင့်ခြင်းလုပ်ငန်းများကို လုပ်ဆောင်နိုင်ရေး အရည်အချင်းပြည့်ဝသော ဝန်ထမ်းများ ခန့်ထားရန်၊

(င) MRTV မှ ရွေးချယ်စေလွှတ်သောဝန်ထမ်းများနှင့် **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** ခန့်ထားသည့် ဝန်ထမ်းများအား Rebranding လုပ်ရာတွင် အရည်အချင်းပြည့်မီသော လိုအပ်သည့် ပြည်တွင်း ပြည်ပပညာရှင်နှင့် ကျွမ်းကျင်မှုဆိုင်ရာ သင်တန်းများကို US$ 1,000,000 အကုန်အကျခံ၍ ပထမအဆင့်အနေဖြင့် ၂၀၁၀ ခုနှစ်၊ ဇွန်လ လကုန်အထိ လေ့ကျင့်သင်ကြားပေးရန်နှင့် လိုအပ်ပါက နှစ်ဖက်ညှိနှိုင်း ဆောင်ရွက်ရန်၊ နည်းပညာနှင့် သင်တန်းပို့ချနိုင်ရေး MI လုပ်ငန်းခွင်တွင်

ပြည်တွင်းပြည်ပ ပညာရှင်များ အဖြစ် တွဲဖက်တာဝန်ထမ်းဆောင်နိုင်ရေးအတွက် အောက်ပါအတိုင်း ငှားရမ်းပေးရန် -

| | | |
|---|---|---|
| (၁) | General Manager | (1) Person |
| (၂) | Production Supervisor | (1) Person |
| (၃) | Documentary Supervisor | (1) Person |
| (၄) | Current Affair Supervisor | (1) Person |
| (၅) | News Supervisor | (1) Person |
| (၆) | Script Supervisor | (1) Person |
| (၇) | Post Production Supervisor | (2) Persons |
| (၈) | News Presenter | (4) Persons |
| (၉) | Current Affair Host | (2) Persons |
| (၁၀) | English Teacher | (1) Person |
| (၁၁) | Script Writer | (1) Person |
| (၁၂) | Lighting & Audio System Engineer | (2) Persons |

(စ) ၄ွန်လနောက်ပိုင်းထပ်မံ၍ (၃)လအတွက် အောက်ပါတို့ကို ငှားရမ်းရေး လိုအပ်သလို နှစ်ဖက်ညှိနှိုင်း ဆောင်ရွက်ရန် -

(၁) Training
- Programe Production
- News Production

(၂) Graphic

(၃) News Presenter

(၄) Lighting & Audio System Engineer

(ဆ) MITV Channel အသစ်ထုတ်လွှင့်ခြင်းကို အစဦးပိုင်းတွင် နိုင်ငံခြားသားပညာရှင်အချို့ ကိုယ်တိုင် ပါဝင်ခြင်းဖြင့်လည်းကောင်း၊ ယင်းနောက်ပိုင်းတွင် သင်တန်းပေးထားပြီးဖြစ်သော "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ ဝန်ထမ်းများနှင့် "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" ခန့်ဝန်ထမ်းများဖြင့် ပူးတွဲ၍လည်းကောင်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ဇ) MITV ဝန်ထမ်းများ၏ သက်သာချောင်ချိရေးကိစ္စများကို အထိုက်အလျောက် ကူညီဆောင်ရွက်ပေးရန်၊

(ဈ) ထုတ်လွှင့်ရန်လိုအပ်သော ရုပ်ရှင်၊ ဗွီဒီယို၊ တေးဂီတနှင့် အခြားအစီအစဉ် (Content) များ၏ မူပိုင်ခွင့်ကို ရရှိနိုင်ရေးအတွက် တာဝန်ယူဆောင်ရွက်ရန်၊ ဖော်ပြပါအတိုင်း မူပိုင်ခွင့်ကို မရယူဘဲ ထုတ်လွှင့်ခြင်းကြောင့် ဖြစ်ပေါ်လာသော တာဝန်များအတွက် **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** က လုံးဝ တာဝန်ယူဆောင်ရွက်ရန်၊

(ည) ထုတ်လွှင့်သောအစီအစဉ်များကို ဖမ်းယူကြည့်ရှုရာတွင် လိုအပ်သော စက်ပစ္စည်းများ တပ်ဆင်ရေးကို **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** ၏ ဝန်ထမ်းများထံမှ လိုအပ်ပါက အကူအညီရယူနိုင်ပြီး လုပ်ငန်းကုန်ကျစရိတ်ကို **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** က ကျခံရန် ၊

(ဋ) **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** ကိုယ်စား ငှားရမ်းသည့်ဝန်ဆောင်မှုလုပ်ငန်းအတွက် ကြည့်ရှုသူများထံမှ ငှားရမ်းကြည့်ရှုခကောက်ခံရန်နှင့် ကြော်ငြာခများ ကောက်ခံရန် ၊

(ဌ) **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း တာဝန်ထမ်းဆောင်သည့် မိမိ၏ နိုင်ငံခြားသားဝန်ထမ်းများနှင့် ၎င်းတို့၏ မိသားစုဝင်များက ပြည်ထောင်စုမြန်မာနိုင်ငံ၏ ဥပဒေများနှင့် ဥပဒေ စည်းမျဉ်းစည်းကမ်းများကို လေးစားလိုက်နာရေးနှင့် မြန်မာနိုင်ငံ၏ ပြည်တွင်းရေးများတွင် ဝင်ရောက်စွက်ဖက်မှုမပြုရေးအတွက် ကြပ်မတ်ဆောင်ရွက်ရန် တာဝန်ရှိသည်။

၇။ **လုပ်ငန်းလုပ်ကိုင်ခွင့်သက်တမ်း**

လုပ်ငန်းလုပ်ကိုင်ခွင့်သက်တမ်းကို စာချုပ်စတင်အသက်ဝင်သည့်နေ့မှစ၍ (၃၃) နှစ် သတ်မှတ်သည်။

၈။ **အကျိုးအမြတ်ခွဲဝေခြင်း**

(က) လုပ်ငန်း ပုံမှန်စတင်သည့်နေ့မှ ပထမ (၃)နှစ်ကာလသည် ဝင်ငွေနည်းပါးပြီး ကုန်ကျစရိတ် ကြီးမားသည့်အတွက် ရရှိသောဝင်ငွေမှ ဥပဒေအရ ပေးဆောင်ရန်ရှိသည့် အခွန်အခအားလုံးကို ပေးဆောင်ခြင်းမှသော်လည်းကောင်း၊ အကျိုးအမြတ်ခွဲဝေခြင်းမှသော်လည်းကောင်း ကင်းလွတ်ခွင့်ပြုသော ကာလဟု သတ်မှတ်သည်။ ယင်း (၃) နှစ် ကာလ၏နောက်ပိုင်း အပိုဒ် ၂(ဃ) အရ ငှားရမ်းသည့် ဝန်ဆောင်မှုလုပ်ငန်းများအတွက် ကြည့်ရှုသူများထံမှ ကောက်ခံရရှိသည့် ငှားရမ်းကြည့်ရှုခ ဝင်ငွေများအနက်မှ ဥပဒေအရ ပေးဆောင်ရန်ရှိသည့် နိုင်ငံတော်သို့ ပေးဆောင်ရမည့် အခွန်အခအားလုံးကို ပေးဆောင်ပြီး ကျန်ရှိသည့် ငွေကြေးတို့ကို အောက်ပါသတ်မှတ်ရာခိုင်နှုန်း အချိုးအစားအတိုင်း ခံစားခွင့်ပြုရန် ဖြစ်ပါသည် -

| ပထမ | (၃)နှစ်နောက်ပိုင်း | "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ရမည့်အချိုး | "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" ရမည့်အချိုး |
|---|---|---|---|
| ဒုတိယ | (၅)နှစ် | ၄% | ၉၆% |
| တတိယ | (၅)နှစ် | ၈% | ၉၂% |
| စတုတ္ထ | (၅)နှစ် | ၁၂% | ၈၈% |
| ပဉ္စမ | (၅)နှစ် | ၁၆% | ၈၄% |
| ဆဋ္ဌမ | (၅)နှစ် | ၂၀% | ၈၀% |
| သတ္တမ | (၅)နှစ် | ၂၅% | ၇၅% |

(ခ) အပိုဒ် ၂(ဃ) ပါ ဝန်ဆောင်မှုလုပ်ငန်းများမှ ကောက်ခံရရှိသည့် ကြော်ငြာခဝင်ငွေများကိုလည်း ပထမ (၃)နှစ်အတွက် အပိုဒ် ၈၊ အပိုဒ်ခွဲ (က) အတိုင်း ဆောင်ရွက်ရန်ဖြစ်သည်။ ၎င်းကာလနောက်ပိုင်း ရရှိသော ကြော်ငြာခဝင်ငွေများကိုမူ ဥပဒေအရ ပေးဆောင်ရန်ရှိသည့် နိုင်ငံတော်သို့ ပေးဆောင်ရမည့် အခွန်အခအားလုံးတို့ ပေးဆောင်ပြီး ကျန်ရှိသည့်ငွေကြေးကို အောက်ပါသတ်မှတ်နှုန်းထားအတိုင်း ခံစားခွင့်ပြုရန် ဖြစ်ပါသည်။

| | | "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ရမည့်အချိုး | "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" ရမည့်အချိုး |
|---|---|---|---|
| ပထမ | (၃)နှစ်နောက်ပိုင်း | | |
| ဒုတိယ | (၅)နှစ် | ၄% | ၉၆% |
| တတိယ | (၅)နှစ် | ၈% | ၉၂% |
| စတုတ္ထ | (၅)နှစ် | ၁၂% | ၈၈% |
| ပဉ္စမ | (၅)နှစ် | ၁၆% | ၈၄% |
| ဆဌမ | (၅)နှစ် | ၂၀% | ၈၀% |
| သတ္တမ | (၅)နှစ် | ၂၅% | ၇၅% |

(ဂ) စာချုပ်၏အပိုဒ်၃၊ အပိုဒ်ခွဲ (ခ) (ဃ)၊ (စ) ပါ လုပ်ငန်းများအတွက် ရရှိလာသော ဝင်ငွေမှ ပြသမည့် အစီအစဉ် (Content) အတွက် တုန်ကျစရိတ် (Content right ဝယ်ယူရန် ကုန်ကျငွေ ) ကို နှုတ်ပယ်၍ ကျန်ငွေအပေါ် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" နှင့် " လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ " တို့သည် အထက်အပိုဒ် ၈၊ အပိုဒ် (က) နှင့် (ခ) ပါ အကျိုးအမြတ် ခွဲဝေခြင်း အချိုးအတိုင်း ခွဲဝေရမည်။

(ဃ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" က ဤစာချုပ်ပါ ၎င်း၏တာဝန်များကိုဆောင်ရွက်ရန် ပျက်ကွက်ခြင်း မရှိသ၍ ဤစာချုပ်၏ အပိုဒ် ၂ ပါ ဆောင်ရွက်မည့်လုပ်ငန်းကို "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" အား ဆက်လက်ဆောင်ရွက်ခွင့်ပြုမည်။

၉။ **ကြိုတင်စည်းကမ်းသတ်မှတ်ချက်**

ဤစာချုပ်၏ အကျိုးသက်ရောက်မှုသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း သက်ဆိုင်ရာ အစိုးရ အာဏာပိုင်အဖွဲ့အစည်းများနှင့် ဌာနများထံမှ လိုအပ်သည့် သဘောတူညီချက်၊ ခွင့်ပြုချက်များ ရရှိပြီးမှုပေါ် တွင် တည်ရှိပါသည်။

၁၀။ **ကိုယ်စားပြုခြင်းနှင့် အာမခံခြင်း**

ဤစာချုပ်ကို ချုပ်ဆိုသူ စာချုပ်ဝင်တို့သည် -

(က) ဤစာချုပ်ကို လက်မှတ်ရေးထိုးရန်အလို့ငှာ ငွေကြေးအင်အား ပြည့်စုံပြီး လုပ်ပိုင်ခွင့်အာဏာရှိသူများ ဖြစ်ကြောင်း၊ သက်ဆိုင်ရာ ဥပဒေများနှင့်အညီ တရားဝင်ရပ်တည်နိုင်သူများဖြစ်ကြောင်းကိုလည်းကောင်း၊

(ခ) ဤစာချုပ်ကို လက်မှတ်ရေးထိုး၍ အကောင်အထည်ဖော် ဆောင်ရွက်ရန်အတွက် လိုအပ်သော နိုင်ငံတော်အစိုးရ၏ သဘောတူညီခွင့်ပြုချက်၊ သက်ဆိုင်ရာကုမ္ပဏီ၏ သဘောတူညီခွင့်ပြုချက်များရရှိပြီးဖြစ်၍ ဤစာချုပ်သည် ဥပဒေအရ စည်းနှောင်မှုရှိသော တရားဝင်စာချုပ်ဖြစ်ကြောင်းကိုလည်းကောင်း၊

- တစ်ဦးနှင့်တစ်ဦး အပြန်အလှန် ကိုယ်စားပြု အာမခံကြပါသည်။

၁၁။ **ဆောင်ရွက်မည့် ဥပဒေသ**

ဤစာချုပ်ဝင်များသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းကမ်းများ၊ ညွှန်ကြားချက်များ၊ ကျင့်ထုံးများနှင့်အညီ ဤစာချုပ်ကြောင့် ဖြစ်ပေါ်လာသော ဆောင်ရွက်ရန် တာဝန်များကို အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

၁၂။ **စာချုပ်၏ စတင်အကျိုးသက်ရောက်သည့်နေ့**

ဤစာချုပ်ကို စာချုပ်ဝင်အသီးသီး လက်မှတ်ရေးထိုးပြီးစီးသည့်နေ့မှစတင်၍ ဤစာချုပ်သည် အကျိုးသက်ရောက်မှု ရှိစေရမည်။

၁၃။ **လုပ်ငန်းစတင်ဆောင်ရွက်မည့် အချိန်ကာလ သတ်မှတ်ခြင်း**

ဤစာချုပ်ပါ ဆောင်ရွက်ရန်လုပ်ငန်းများကို ဤစာချုပ် အကျိုးသက်ရောက်သည့်နေ့မှ စတင်ဆောင်ရွက်ရန် ဖြစ်ပါသည်။

၁၄။ **စာချုပ်သက်တမ်း**

(က) စာချုပ်၏သက်တမ်းမှာ စတင်အကျိုးသက်ရောက်သည့်နေ့မှစ၍ (၃၃) နှစ်ဖြစ်သည်။

(ခ) **"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"** က စာချုပ်သက်တမ်းကို တိုးလိုလျှင် စာချုပ်သက်တမ်း မကုန်ဆုံးမီ (၆)လ ကြိုတင်၍ **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** အား စာဖြင့်အကြောင်းကြားရမည်။ (၃၃) နှစ်ပြည့်ပြီးနောက်ထပ် (၅) နှစ် တစ်ကြိမ်သာ တိုးချဲ့ရန် လျှောက်ထားနိုင်သည်။ သက်တမ်းတိုးကာလအတွက် အကျိုးအမြတ်ခွဲဝေမှုကို ပြန်လည်ညှိနှိုင်းသတ်မှတ်မည်။

၁၅။ **စာချုပ်ပြင်ဆင်ဖြည့်စွက်ခြင်း**

ဤစာချုပ်ကို နှစ်ဦးနှစ်ဖက် သဘောတူညီမှု မရရှိဘဲ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း လုံးဝ မပြုလုပ်ရ။ သို့ရာတွင် ကြိုတင်မျှော်မှန်း၍ မရနိုင်ခဲ့သော ခိုင်မာသည့်ကိစ္စ တစ်ရပ်ရပ်ကြောင့် ဤစာချုပ်ကို ပြင်ဆင်ဖြည့်စွက်ရန် လိုအပ်ပါက နှစ်ဦးနှစ်ဖက် စာဖြင့် သဘောတူညီချက်ရယူ၍ လိုအပ်သလို ပြင်ဆင်ဖြည့်စွက်နိုင်သည်။ ဤသဘောတူစာချုပ်၏ ပြင်ဆင်ဖြည့်စွက်ချက်အရပ်ရပ်သည် အစိုးရအဖွဲ့၏ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်သည်။

## ၁၆။ တစ်စိတ်တစ်ပိုင်း ဆောင်ရွက်ခွင့်

ဤစာချုပ်၏ တစ်စိတ်တစ်ပိုင်း သို့မဟုတ် ပြဋ္ဌာန်းချက်တစ်ရပ်ရပ်သည် တရားမဝင် ဖြစ်လာလျှင်၊ ပျက်ပြယ်လျှင် သို့မဟုတ် စီရင်ပိုင်ခွင့်ရှိသည့် တရားရုံးမှ တရားမဝင်၊ ပျက်ပြယ်သည်ဟု ဆုံးဖြတ်ခံရလျှင်၊ ထိုအစိတ်အပိုင်း သို့မဟုတ် ပြဋ္ဌာန်းချက်ကို စာချုပ်မှ ပယ်ဖျက်ခြင်းအားဖြင့် စာချုပ်ဝင် တစ်ဦးဦး၏ ဤစာချုပ်ပါ စီးပွားရေး ဦးတည်မျှော်မှန်းချက် တစ်ရပ်ကို အရင်းအမြစ်မှ ထိခိုက်ခြင်း မဖြစ်စေလျှင် ထိုအစိတ်အပိုင်း (သို့မဟုတ်) ပြဋ္ဌာန်းချက်ကို စာချုပ်မှ ပယ်ဖျက်ကာ စာချုပ်၏ ကျန်အစိတ်အပိုင်းများနှင့် ပြဋ္ဌာန်းချက်များကို ဆက်လက်အကောင်အထည်ဖော် ဆောင်ရွက်နိုင်သည်။

## ၁၇။ စာချုပ် ရပ်စဲခြင်း

ဤစာချုပ်သည် အောက်ဖော်ပြပါ အကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်လာပါက ရပ်စဲသွားစေရမည် -

(က) စာချုပ်ဝင် တစ်ဖက်ဖက်က စာချုပ်ပါစည်းကမ်းချက် တစ်ရပ်ရပ်ကို ဖောက်ဖျက်သဖြင့် တစ်ဖက်စာချုပ်ဝင်က အဆိုပါ ဖောက်ဖျက်သောစည်းကမ်းချက်ကို ပြုပြင်ရန် ကာလသတ်မှတ်ချက်ဖြင့် တရားဝင် အကြောင်းကြားခဲ့သော်လည်း ထိုသတ်မှတ်ကာလအတွင်း ဖောက်ဖျက်သူက လိုက်နာခြင်းမပြုသည့် အတွက် ရပ်စဲခြင်း

(ခ) စာချုပ်ကို ရပ်စဲရန် နှစ်ဦးနှစ်ဖက် သဘောတူသည့်အတွက် ရပ်စဲခြင်း ။

(ဂ) ဤစာချုပ်၏ ရည်ရွယ်ချက်များကို အကောင်အထည်ဖော် ဆောင်ရွက်ရန် မဖြစ်နိုင်သည့်အတွက် ရပ်စဲခြင်း၊

(ဃ) ကြိုတင်မမျှော်မှန်းနိုင်သည့် မလွန်ဆန်နိုင်သော ဖြစ်ရပ်တစ်ခုသည် (၆)လထက် ကျော်လွန်၍ တစ်ဆက်တည်း ဖြစ်ပွားနေသည့်အတွက် ရပ်စဲခြင်း ။

(င) ဤစာချုပ်သက်တမ်း ကုန်ဆုံးသည့်အတွက် ရပ်စဲခြင်း ။

(စ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" သည် နိုင်ငံတော်အစိုးရက ချမှတ်ထားသော ဥပဒေစည်းမျဉ်း စည်းကမ်းများကို မလိုက်နာလျှင်သော်လည်းကောင်း၊ ဖောက်ဖျက်လျှင်သော်လည်းကောင်း၊ ဆင်ဆာခွင့်ပြုချက် မရရှိသော အစီအစဉ်များ ထုတ်လွှင့်လျှင်သော်လည်းကောင်း ဤစာချုပ်ကို ချက်ချင်းရပ်စဲခြင်း ။

## ၁၈။ စက်ကိရိယာများ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

အထက်အပိုဒ် (၁၇)ပါ အချက်တစ်ခုခုကြောင့် စာချုပ်ရပ်စဲလျှင် "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" က လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိထားသော ကာလအတွင်း တပ်ဆင်ပေးထားခဲ့သော စက်ကိရိယာများ အားလုံးကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" အား "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" က အဖိုးစားနားမဲ့ လွှဲပြောင်းပေးအပ်ရမည်။

SHWE THAN LWIN MEDIA CO.,LTD.

## ၁၉။ အနုညာတ စီရင်ဆုံးဖြတ်ခြင်း

ဤစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှု တစ်စုံတစ်ရာ ပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက် ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍ မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်စီက တစ်ဦးစီ ခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ် ကို ခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးအပြတ် ဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များအပေါ် အတည်ဖြစ်စေရမည်။ အနုညာတ စီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံအနုညာတ အက်ဥပဒေ (မြန်မာနိုင်ငံအက်ဥပဒေအမှတ် ၄/၁၉၄၄) နှင့် နောက်ပိုင်း ပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အနုညာတ စီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ နေပြည်တော် (တပ်ကုန်း)မြို့ ဖြစ်စေရမည်။ အမှု၏ ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံစေရမည်။

## ၂၀။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

(က) ဤစာချုပ်အရ ဆောင်ရွက်ရမည့် တာဝန်ဝတ္တရားများကို မလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် တစ်စိတ်တစ်ဒေသဖြစ်စေ၊ လုံးဝဖြစ်စေ မထမ်းဆောင်နိုင်လျှင် ထိုသို့ မထမ်းဆောင်နိုင်သူ စာချုပ်ဝင်က အခြားစာချုပ်ဝင်သို့ (၁၅) ရက်အတွင်း ထိုမလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်ကြောင်းကို အသေးစိတ်စာဖြင့် ရေးသားအကြောင်းကြားရမည်။ အခြားစာချုပ်ဝင်က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်ပျောက်ပြီး တာဝန်ဝတ္တရားများ ထမ်းဆောင်ခြင်းကို ထိုမလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်နေစဉ်ကာလအတွင်း ဆိုင်းငံ့ထားနိုင်သည်။ ထိုမလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ကြန့်ကြာမှုအတွက် မည်သူ့တွင်မှ တာဝန်မရှိစေရ။

(ခ) မလွန်ဆန်နိုင်သော ဖြစ်ရပ်ဆိုသည်မှာ - သဘာဝဘေးဒုက္ခများ၊ လျှပ်စီးလျှပ်ပြက်ခြင်း၊ သပိတ်မှောက်ခြင်း၊ ပိတ်ဆို့မှုများ၊ သူပုန်ထခြင်း၊ အဓိကရုဏ်းဖြစ်ခြင်း၊ အကြမ်းဖက်နှောင့်ယှက် ဖျက်ဆီးခြင်း၊ ပေါက်ကွဲမှုဖြစ်ခြင်း၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မုန်တိုင်းတိုက်ခတ်ခြင်း နှင့် အခြားအလားတူ အကြောင်းများဖြစ်ပြီး စာချုပ်ဝင်၏ ထိုက်သင့်သော ဂရုပြုမှု၊ ဖွဲ့ လုံ့လတို့နှင့် ထိန်းချုပ်၍မရဘဲ ကျော်လွှားရန် မစွမ်းဆောင်နိုင်သော ဖြစ်ရပ်များကို ဆိုလိုပါသည်။

## ၂၁။ တာဝန်နှင့် အခွင့်အရေးများ လွှဲအပ်ခြင်း

(က) စာချုပ်ဝင်တစ်ဦးသည် ဤစာချုပ်ပါ မိမိ၏တာဝန်နှင့် အခွင့်အရေးများကို တစ်ဖက်စာချုပ်ဝင်၏ စာဖြင့်ရေးသားထားသည့် ခွင့်ပြုချက်ဖြင့်သာ အခြားသူတစ်ဦးသို့ လွှဲပြောင်းခွင့်ရှိသည်။

(ခ) အထက်အပိုဒ် (က)တွင် ပါရှိသကဲ့သို့ လွှဲပြောင်းပေးခံရသူအပေါ်၌ မူလလွှဲပြောင်းပေးအပ်သူ၏ စာချုပ်ပါ အခွင့်အရေးနှင့် တာဝန်များအားလုံးသည် စည်းနှောင်မှုရှိသည်ဟု မှတ်ယူရမည်။ ဤစာချုပ်ပါ စည်းကမ်းချက်များကို လွှဲပြောင်းဆက်ခံသူက လိုက်နာရန် လွှဲပြောင်းပေးသူက တာဝန်ယူရမည်။ လွှဲပြောင်းဆက်ခံသူ၏ ပြုလုပ်မှု၊ ပျက်ကွက်မှုအားလုံးသည် မူလလွှဲပြောင်းပေးအပ်သူ၏ ပြုလုပ်မှု၊ ပျက်ကွက်မှုကဲ့သို့ လွှဲပြောင်းပေးအပ်သူတွင် တာဝန်ရှိစေရမည်။

၂၂။ ဆက်သွယ်၊ အကြောင်းကြားရန် လိပ်စာများ

ဤစာချုပ်ဝင် နှစ်ဦးတို့အကြား ဆက်သွယ်ခြင်း၊ အကြောင်းကြားစာ ပေးပို့ခြင်းကို အောက်ပါလိပ်စာအတိုင်း လိပ်မူရမည်။ အဆိုပါလိပ်စာများကို ပြောင်းလဲလိုသူသည် တစ်ဖက်စာချုပ်ဝင်အား (၁၄) ရက် ကြိုတင်အကြောင်းကြားစာပေးပို့ရမည်။

မြန်မာ့အသံနှင့် ရုပ်မြင်သံကြား
ပြန်ကြားရေးဝန်ကြီးဌာန
နေပြည်တော် ။
ဖုန်း (၀၆၇) ၇၉၄၅၆
Fax (၀၆၇) ၇၉၄၀၃

Shwe Than Lwin Media Company Limited
အမှတ် (၂၆၂)၊ အောက်ပုဇွန်တောင်လမ်း၊
ရာဇာဓိရာဇ်အိမ်ရာဝင်း
ပိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့ ။
ဖုန်း - ၂၀၀၇၀၉ ၊ ၂၀၀၇၁၀
Email : shwethanlwin@myanmar.com.mm

အထက်ပါ အချက်အလက်များကို နားလည်သဘောတူ လက်ခံကြသည့် စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် နေပြည်တော်၌ အထက်တွင် ဖော်ပြရေးသားထားသည့် ၂၀၁၀ ခုနှစ်၊ ဇူလိုင်လ၊ ၂၈ ရက်နေ့တွင် အောက်ပါ အသိသက်သေများရှေ့မှောက်၌ မိမိတို့၏ တံဆိပ်များကို ရိုက်နှိပ်လျက် စာချုပ်မူရင်းကွဲနှစ်စောင် ပြုလုပ် လက်မှတ်ရေးထိုး ချုပ်ဆိုကြပါသည် -

"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" (ကိုယ်စား)

(ဦးခင်မောင်ဌေး)
ညွှန်ကြားရေးမှူးချုပ်
မြန်မာ့အသံနှင့် ရုပ်မြင်သံကြား

"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" (ကိုယ်စား)

(ဒေါ်စန္ဒာဝင်း)
ဒါရိုက်တာ
Shwe Than Lwin Media Company Limited

| | | | |
|---|---|---|---|
| အသိသက်သေ | | အသိသက်သေ | |
| အမည် | (မြင့်ဦး) | အမည် | (ဇော်ဦးဌေး) |
| အလုပ်အကိုင် | ညွှန်ကြားရေးမှူး (စီမံခန့်ခွဲရေး) | အလုပ်အကိုင် | Dy MD. |
| နိုင်ငံသားစိစစ်ရေး | မြန်မာ့အသံနှင့်ရုပ်မြင်သံကြား | နိုင်ငံသားစိစစ်ရေး | [illegible] |
| ကတ်ပြားအမှတ် | | ကတ်ပြားအမှတ် | |
| နေရပ်လိပ်စာ | | နေရပ်လိပ်စာ | [illegible] |

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပြန်ကြားရေးဝန်ကြီးဌာန

စာအမှတ်၊ ၃ - ၉( ၂ / ၂၀၁၅ ) / ၄၉၉
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၂၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **မြန်မာ့အသံနှင့်ရုပ်မြင်သံကြားနှင့် ရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက်တို့အကြား Myanmar International Channel (MITV Channel ) ရုပ်သံလိုင်း ထုတ်လွှင့်ခြင်းအတွက် သီးသန့်စာချုပ် ချုပ်ဆိုရန် ကိစ္စ**

မြန်မာ့အသံနှင့်ရုပ်မြင်သံကြားနှင့် ရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက်တို့အကြား Myanmar International Channel (MITV Channel ) ရုပ်သံလိုင်း ထုတ်လွှင့် ခြင်းအတွက် သီးသန့်စာချုပ် ချုပ်ဆိုရန် ကိစ္စနှင့်ပတ်သက်၍ အောက်ပါစာရွက်စာတမ်းများအား လိုအပ်သလို ဆောင်ရွက်နိုင်ပါရန် ပူးတွဲပေးပို့ တင်ပြအပ်ပါသည်-

(က) ပြည်ထောင်စုအစိုးရအဖွဲ့၏ ၁၂-၇-၂၀၁၀ ရက်စွဲပါ စာအမှတ်၊ ၇၆/၁၄၈/အဖရ (၂၅/ ၂၀၁၀)

(ခ) ပြည်ထောင်စုအစိုးရအဖွဲ့၏ ၁၁-၈-၂၀၁၀ ရက်စွဲပါ စာအမှတ်၊ ၁၄/၁၅၇-အဖရ (MITV)/(၂၅/၂၀၁၀)

(ဂ) ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ နေပြည်တော်၏ ၁၄-၅-၂၀၁၀ ရက်စွဲပါ စာအမှတ်၊ ၂ (၅) ၁၄-၃၀/နပတ(၂၀၀)

(ဃ) ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ နေပြည်တော်၏ ၂၆-၅-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၂ (၅) ၁၄-၈၃/နပတ(၄၉၅)

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးမြင့်မောင် ၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

ထိပ်တန်းလျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
အစိုးရအဖွဲ့

စာအမှတ်၊ ၇၆ / ၁၄၈ /အဖရ (၂၅/ ၂၀၁၀ ) ။
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဇူလိုင်လ ၁၂ ရက်။

# အ မှာ စာ

အကြောင်းအရာ။ Myanmar International ရုပ်/သံလိုင်းသစ် ( MITV Channel ) ထုတ်လွှင့်ခြင်း (Broadcasting) လုပ်ငန်းကို ပူးပေါင်းဆောင်ရွက်ရေးနှင့် (DTH) စနစ်ဖြင့် ဝန်ဆောင်မှုလုပ်ငန်းများဆောင်ရွက်ရေးအတွက် မြန်မာ့အသံ နှင့်ရုပ်မြင်သံကြားနှင့် Shwe Than Lwin Media Company Limited တို့ ပူးပေါင်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စ။

၁။ ၂၀၁၀ ခုနှစ်၊ ဇူလိုင်လ ၂ ရက် ( သောကြာ )နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၅/၂၀၁၀) မှတ်တမ်းကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်း ပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

အတွင်းရေးမှူး ( ကိုယ်စား )
(အောင်လွင်ဦး)

**ဝန်ကြီး**
**ပြန်ကြားရေးဝန်ကြီးဌာန**

၇၆။ Myanmar International ရုပ်/သံလိုင်းသစ် ( MITV Channel ) ထုတ်လွှင့်ခြင်း (Broadcasting) လုပ်ငန်းကို ပူးပေါင်းဆောင်ရွက်ရေးနှင့် (DTH) စနစ်ဖြင့် ဝန်ဆောင်မှုလုပ်ငန်းများဆောင်ရွက်ရေးအတွက် မြန်မာ့အသံ နှင့်ရုပ်မြင်သံကြားနှင့် Shwe Than Lwin Media Company Limited တို့ ပူးပေါင်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စ။

ပြန်ကြားရေးဝန်ကြီးဌာန၏ ၂၀၁၀ ခုနှစ်၊ ဇွန်လ ၂၅ ရက်နေ့စွဲပါ အမှာစာအမှတ်၊ ၂-၁၀(၂/၂၀၁၀)။

မြန်မာ့အသံနှင့်ရုပ်မြင်သံကြားနှင့် Shwe Than Lwin Media Company Limitedတို့ပူးပေါင်း၍ Myanmar International ရုပ်/သံ လိုင်းသစ် ( MITV Channel ) ထုတ်လွှင့်ခြင်း(Broadcasting ) လုပ်ငန်းကိုပူးပေါင်းဆောင်ရွက်ရေးနှင့်( DTH )စနစ် ဖြင့် ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရေးအတွက် မြန်မာ့အသံနှင့်ရုပ်မြင်သံကြားနှင့် Shwe Than Lwin Media Company Limited တို့ ပူးပေါင်းဆောင်ရွက်ခွင့်ကို ပြန်ကြားရေးဝန်ကြီးဌာန၏ ကြီးကြပ် ကွပ်ကဲမှုဖြင့် ဆောင်ရွက်ခွင့်ပြုရန်နှင့် သဘောတူစာချုပ် ချုပ်ဆို ခွင့်ပြုရန် သဘောတူ ကြောင်းဆုံးဖြတ်ကြသည်။ ဆောင်ရွက်ရန်၊ ပြန်ကြားရေး။

ထိပ်တန်းလျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
အစိုးရအဖွဲ့

အမိန့်ကြော်ငြာစာ
အမှတ်၊ ၇၁ / ၂၀၁၀

နေပြည်တော်၊ ၁၃၇၂ ခုနှစ်၊ ဝါခေါင်လဆန်း ၁ ရက်
(၂၀၁၀ ခုနှစ်၊ ဩဂုတ်လ ၁၁ ရက်)

**အသံလွှင့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုခြင်း**

၁။ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သည် နိုင်ငံတော်ပိုင် စီးပွားရေးလုပ်ငန်းများ ဥပဒေ ပုဒ်မ ၄ အရ အပ်နှင်းထားသည့် လုပ်ပိုင်ခွင့်ကို ကျင့်သုံးလျက် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

၂။ ပြန်ကြားရေးဝန်ကြီးဌာန ၊ မြန်မာ့အသံနှင့်ရုပ်မြင်သံကြားနှင့် Shwe Than Lwin Media Company Limited တို့သည် Myanmar International ရုပ်သံလိုင်းသစ် (MITV Channel) ထုတ်လွှင့်ခြင်း (Broadcasting) လုပ်ငန်းကို ပူးပေါင်းဆောင်ရွက်ခြင်းနှင့် (DTH) စနစ်ဖြင့် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခြင်း သဘောတူစာချုပ်ကို ချုပ်ဆိုခဲ့ကြပါသည်။

၃။ နိုင်ငံတော်ပိုင် စီးပွားရေးလုပ်ငန်းများဥပဒေပုဒ်မ ၃ ပုဒ်မခွဲ(ဈ)အရ အစိုးရကသာ နိုင်ငံတော်ပိုင် စီးပွားရေးလုပ်ငန်းအဖြစ် လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိသည့် အသံလွှင့်လုပ်ငန်းနှင့် ရုပ်မြင် သံကြားထုတ်လွှင့်ခြင်းလုပ်ငန်းများအနက် အသံလွှင့်လုပ်ငန်းဖြစ်သော ရုပ်သံလိုင်းသစ် (MITV Channel) ထုတ်လွှင့်ခြင်းကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ ၂-၇-၂၀၁၀ ရက်နေ့တွင် ကျင်းပခဲ့သည့် အစည်းအဝေးအမှတ်စဉ် ၂၅/၂၀၁၀ အရ Shwe Than Lwin Media Company Limited အား လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုလိုက်သည်။

၄။ လုပ်ကိုင်ဆောင်ရွက်ခွင့်ရသည့် Shwe Than Lwin Media Company Limited သည် Myanmar International ရုပ်သံလိုင်းသစ် (MITV Channel) ထုတ်လွှင့်ခြင်း (Broadcasting) လုပ်ငန်းကို ပူးပေါင်းဆောင်ရွက်ခြင်းနှင့် (DTH) စနစ်ဖြင့်ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခြင်း သဘောတူ စာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ရမည်။

၅။ အပိုဒ်(၃)ပါ လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုသော လုပ်ငန်းကို ကြီးကြပ်ကွပ်ကဲရန် ပြန်ကြားရေး ဝန်ကြီးဌာနအား လုပ်ပိုင်ခွင့် အပ်နှင်းလိုက်သည်။

အမိန့်အရ

( သန့်ရှင်း )
အတွင်းရေးမှူး
ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့

စာအမှတ်၊ ၁၄ / ၁၅၇ - အဖရ (MITV)/( ၂၅/၂၀၁၀)။
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဩဂုတ်လ ၁၁ ရက်။

နောက်ဆက်တွဲ(က)

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်

ရှေ့နေချုပ်ရုံး

နေပြည်တော်

စာအမှတ်၊ ၂(ဃ) ၁၄- ၃၀/နပတ(၂၈၀)

ရက်စွဲ၊ ၂၀၁၀ ပြည့်နှစ်၊ မေလ ၁၄ ရက်

အကြောင်းအရာ။ **MRTV-3 အစီအစဉ်ကို MYANMAR INTERNATIONAL ရုပ်မြင်သံကြားလိုင်းသစ်(MITV) အဖြစ် အသွင်ပြောင်း ထုတ်လွှင့်မည့် သဘောတူစာချုပ်(မူကြမ်း) အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ ပြန်ကြားရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၂၆-၄-၂၀၁၀ ရက်စွဲပါစာအမှတ်၊ ၂-၁၀ (၃၀/၂၀၁၀)(၈၄၄)

၁။ ပြန်ကြားရေးဝန်ကြီးဌာန၊ မြန်မာ့အသံနှင့် ရုပ်မြင်သံကြားနှင့် Shwe Than Lwin Media Co., Ltd တို့သည် မြန်မာ့အသံနှင့်ရုပ်မြင်သံကြားတွင်ထုတ်လွှင့်နေသော MRTV-3 အစီအစဉ်များကို MYANMAR INTERNATIONAL ရုပ်မြင်သံကြားလိုင်းသစ် (MITV)အဖြစ်အသွင်ပြောင်း၍ World Wide ထုတ်လွှင့်ခြင်း(Broadcasting)လုပ်ငန်းနှင့်(DTH)စနစ်ဖြင့် ဝန်ဆောင်မှုလုပ်ငန်းများ ပူးပေါင်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုမည့် သဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းစာဖြင့် ပူးတွဲပေးပို့လာသောစာချုပ်(မူကြမ်း)အား ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည်-

(က) စာချုပ်(မူကြမ်း)အပိုဒ် ၆(ဆ) အရ နိုင်ငံခြားသားပညာရှင်များကိုယ်တိုင်လုပ်ငန်းတွင် ပါဝင်လုပ်ကိုင်မည်ဖြစ်ရာ လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ၏ တာဝန်များအပိုဒ် ၆၊ အပိုဒ်ခွဲ (ဠ)အဖြစ် နိုင်ငံခြားသားပညာရှင်များသည် မြန်မာနိုင်ငံအတွင်းရှိနေစဉ် ပြည်တွင်းဥပဒေကို လေးစားလိုက်နာ၍ ပြည်တွင်းရေးရာကိုဝင်ရောက်စွက်ဖက်ခြင်းမရှိစေရန် တာဝန်ရှိကြောင်းစာပိုဒ်ကို ဖြည့်စွက်ရေးသားပေးလိုက်ပါသည်၊

လျှို့ဝှက်

ဖြန့်ဝေခြင်း

နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီဥက္ကဋ္ဌရုံး
နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံး
ဝန်ကြီးဌာနအားလုံး
တရားရုံးချုပ်
ရှေ့နေချုပ်ရုံး
စာရင်းစစ်ချုပ်ရုံး
ပြည်သူ့လွှတ်တော်ရုံး
ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်ရုံး
ဝန်ထမ်းရွေးချယ်လေ့ကျင့်ရေးအဖွဲ့
နေပြည်တော်စည်ပင်သာယာရေးကော်မတီ
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ
သက်ဆိုင်ရာပုဂ္ဂိုလ်များ
ပုံနှိပ်ရေးနှင့်စာအုပ်ထုတ်ဝေရေးလုပ်ငန်း- မြန်မာနိုင်ငံ ပြန်တမ်းတွင် ထည့်သွင်းကြေငြာပေးပါရန်

အမိန့်အရ

(အောင်လွင်ဦး)
ညွှန်ကြားရေးမှူး
အစိုးရအဖွဲ့ရုံး

(ခ) စာချုပ်(မူကြမ်း)အပိုဒ် ၈(က)နှင့် (ခ)တွင် ပထမ(၃)နှစ်ကာလကို ဥပဒေအရပေးဆောင်ရန်ရှိသည့် အခွန်အခအားလုံးပေးဆောင်ခြင်းမှ ကင်းလွတ်ခွင့်ပြုသောကာလဟု သတ်မှတ်ကြောင်းဖော်ပြထားရာ ယင်းအချက်နှင့်စပ်လျဥ်း၍ သက်ဆိုင်ရာဝန်ကြီးဌာနနှင့်ကြိုတင်ညှိနှိုင်းရန်လိုအပ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် ၈(ဂ)တွင် စာချုပ်၏အပိုဒ် ၃ အပိုဒ်ခွဲ(ခ)(ဃ)(စ)ပါ လုပ်ငန်းများ၏ အကျိုးအမြတ်ခွဲဝေမှုကို နှစ်ဖက်ညှိနှိုင်းဆောင်ရွက်ရမည်ဟု ဖော်ပြထားရာ နောင်အငြင်းပွားမှုမဖြစ်ပွားစေရန် စာချုပ်ဝင်နှစ်ဖက်ကြိုတင်ညှိနှိုင်း၍ စာချုပ်တွင် ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း)အပိုဒ် ၈ အကျိုးအမြတ်ခွဲဝေခြင်းစာပိုဒ်(ဃ)တွင် စာချုပ်အပိုဒ် ၂ ပါ လုပ်ငန်းကို လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူကိုသာ လုပ်ငန်းဆောင်ရွက်ခွင့်ပြုရမည်ဟူသော ဖော်ပြချက်နှင့်စပ်လျဥ်း၍ ဌာနမှစဥ်းစားသင့်ပါသည်၊

(င) စာချုပ်(မူကြမ်း)အပိုဒ် ၁၄ စာချုပ်သက်တမ်းစာပိုဒ်(ခ)တွင် စာချုပ်သက်တမ်းတိုးလိုလျှင်(၃၃)နှစ်ပြည့်ပြီးနောက် နောက်ထပ်(၅)နှစ်တိုးချဲ့ရန် လျှောက်ထားနိုင်သည်ဟု ဖော်ပြထားရာ တိကျမှုရှိစေရန်အတွက် သက်တမ်းတိုးတစ်ကြိမ်လျှင် မည်မျှအထိတိုးခွင့်ရှိကြောင်းဖြင့် ရှင်းလင်းတိကျစွာဖော်ပြသင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း)အပိုဒ် ၁၇ စာချုပ်ရပ်စဲခြင်းအပိုဒ်ခွဲ(က)၌ စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ဖောက်ဖျက်ရေးနှင့်စပ်လျဥ်း၍" တစ်ဖက်မှသတ်မှတ်ထားသောအချိန်ကာလတစ်ခုအတွင်း" ဟု ဖော်ပြထားရာ အချိန်ကာလအတိအကျမဟုတ်သဖြင့် စာချုပ်ဝင်တစ်ဖက်နှင့်တစ်ဖက် နောင်အငြင်းမပွားနိုင်စေရန် စာချုပ်ဝင်များညှိနှိုင်း၍ အချိန်ကာလအပိုင်းအခြားအတိအကျ သတ်မှတ်ဖော်ပြသင့်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း)အပိုဒ် ၁၉ အနုညာတစီရင်ဆုံးဖြတ်ခြင်းအပိုဒ်တွင် အမှု၏ကုန်ကျစရိတ်များကိုအမှုရှုံးသူကကျခံရမည်ဆိုသည့်အချက်နှင့်အနုညာတစီရင်ဆုံးဖြတ်ခံယူမည့်နေရာတို့မပါရှိသဖြင့် ဖြည့်စွက်ရေးသားပေးလိုက်ပါသည်၊

(ဇ) လိုအပ်သောနေရာတွင် မင်နီဖြင့် အနည်းငယ် ပြင်ဆင်ပေးလိုက်ပါသည်။

၃။ အသံလွှင့်လုပ်ငန်းသည် နိုင်ငံတော်ပိုင်စီးပွားရေးလုပ်ငန်းများဥပဒေပုဒ်မ ၃ အရအစိုးရကသာ နိုင်ငံတော်ပိုင်စီးပွားရေးလုပ်ငန်းအဖြစ် ဆောင်ရွက်နိုင်ခွင့်ရှိသဖြင့် ယခုစာချုပ် (မူကြမ်း)များပါ လုပ်ငန်းများကိုဆောင်ရွက်နိုင်ရန် ဖော်ပြပါဥပဒေပုဒ်မ ၄ အရ အစိုးရအဖွဲ့၏ အမိန့်ကြော်ငြာစာဖြင့် ထုတ်ပြန်သည့် ခွင့်ပြုမိန့်ရရှိရန် လိုအပ် ပါသည်။

၄။ ဤစာချုပ်(မူကြမ်း) ကို ဥပဒေကြောင်းအရသာစိစစ်ခြင်းဖြစ်၍ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှု ဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့်မှတ်ချက် ပေးရန်မရှိပါ ကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍သက်ဆိုင်ရာ ကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်း ဆောင်ရွက်ရန် အကြံပြုပါသည်။

၅။ Shwe Than Lwin Media Company Limited သည် ဥပဒေအရတရားဝင် ဖွဲ့စည်း ထားသောကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကိုလုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှု ရှိမရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်း ခံရသူဟုတ် မဟုတ် စသည်တို့နှင့်စပ်လျဉ်း၍ ကြိုတင်စိစစ်ရန်လိုအပ်မည်ဖြစ်ပါသည်။

၆။ ဤစာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၁၅.၅.၁၀

ညွှန်ကြားရေးမှူးချုပ်(တာဝန်)(ကိုယ်စား)
( ကျော်ဆန်း၊ ညွှန်ကြားရေးမှူး )

ညွှန်ကြားရေးမှူးချုပ်
မြန်မာ့အသံနှင့် ရုပ်မြင်သံကြား

လျှို့ဝှက်

၃၇

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်

၂၈/၅/၁၅

စာအမှတ်၊ ၂(၅) ၁၄ - ၈၃ /နပတ(၄၉၅)

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ မေလ ၂၆ ရက်

အကြောင်းအရာ။ **မြန်မာ့အသံနှင့်ရုပ်မြင်သံကြားနှင့် ရွှေသံလွင်မီဒီယာကုမ္ပဏီတို့အကြား MITV Channel ထုတ်လွှင့်ခြင်း (Broadcrating) လုပ်ငန်းနှင့် စပ်လျဉ်းသည့်ကိစ္စရပ်များအား သီးသန့်ပြန်လည်ချုပ်ဆိုသော သဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်တောင်းခံလာခြင်း ကိစ္စ**

ရည်ညွှန်းချက်။ ပြန်ကြားရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၂၅-၃-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၂-၁ (၅/ ၂၀၁၅)/ ၁၀၇၃

၁။ ပြန်ကြားရေးဝန်ကြီးဌာန၊ မြန်မာ့အသံနှင့်ရုပ်မြင်သံကြားနှင့် ရွှေသံလွင်မီဒီယာကုမ္ပဏီ လီမိတက်တို့အကြား MITV Channel ထုတ်လွှင့်ခြင်းလုပ်ငန်းကို ပူးပေါင်းဆောင်ရွက်ရေးနှင့် DTH စနစ်ဖြင့် ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရေးသဘောတူစာချုပ်အား ၂၈-၇-၂၀၁၀ ရက်နေ့တွင် ချုပ်ဆိုခဲ့ပြီးနောက် ၂၁-၁၀-၂၀၁၄ ရက်နေ့တွင် ယင်းစာချုပ်အားပြင်ဆင်ချုပ်ဆိုကာ ယခုအခါတွင် MITV Channel ထုတ်လွှင့်ခြင်း လုပ်ငန်းဆောင်ရွက်မှုအတွက် သီးသန့်စာချုပ်ချုပ်ဆိုလိုသောကြောင့် စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာတွင် မြန်မာ့အသံနှင့်ရုပ်မြင်သံကြားနှင့် ရွှေသံလွင်မီဒီယာကုမ္ပဏီတို့အကြား ချုပ်ဆိုထားသော စာချုပ်နှင့်စပ်လျဉ်း၍ ညှိနှိုင်းအစည်းအဝေးတွင် MITV Channel ကိစ္စအား သီးခြားချုပ်ဆိုရန် သဘောတူခဲ့ခြင်း၊ ၂၈-၂-၂၀၁၄ ရက်နေ့တွင် ပြုလုပ်ခဲ့သော ပြန်ကြားရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေးအမှတ်စဉ် (၈/ ၂၀၁၄)ဖြင့် သဘောတူညီခြင်း

တို့ကြောင့် MITV Channel ရုပ်သံထုတ်လွှင့်ခြင်းအတွက် သီးသန့်စာချုပ်(မူကြမ်း)ချုပ်ဆိုလိုခြင်း ဖြစ်သည်ဟု ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။

၃။ ပေးပို့လာသော စာချုပ်(မူကြမ်း)အား ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း) စာချုပ်ဝင်စာပိုဒ်အောက်ရှိ အပိုဒ် (ဂ)ပါ ပြန်ကြားရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေးအမှတ်စဉ် (၈/၂၀၁၄) အား စာချုပ်၏နောက်ဆက်တွဲအဖြစ် ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) "ဆောင်ရွက်မည့်လုပ်ငန်း" အပိုဒ် ၂(ဇ)နှင့် "အကျိုးအမြတ်ခွဲဝေခြင်း" အပိုဒ် ၈ တို့တွင် "ကြော်ငြာထည့်သွင်းခြင်း လုပ်ငန်းအပါအဝင် ဖြစ်ထွန်းလာသော လုပ်ငန်းများမှရရှိသည့် ဝင်ငွေအား လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ (ဌာနသို့) ခွဲဝေပေးစေခြင်းမှ ကင်းလွတ်ခွင့်ပြုသည်" ဟု ဖော်ပြထားခြင်းသည် စာချုပ်ပါလုပ်ငန်းကာလတစ်လျှောက် ဌာနအနေဖြင့် အကျိုးအမြတ်ခွဲဝေမှုမရရှိသည့်သဘောသက်ရောက်နေသောကြောင့် လက်ခံနိုင်ခြင်း ရှိ မရှိ ဌာန၏စီမံခန့်ခွဲမှုဘောင်အတွင်းမှ သတိပြုဆောင်ရွက်သင့်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် ၅ (ဆ)တွင် "ITU" ဟုဖော်ပြချက်သည် မည်သည်ကို ဆိုလိုကြောင်း ရှင်းလင်းမှုမရှိပါ။ နောင်အငြင်းပွားမှုမဖြစ်စေရေးအတွက် ပြည့်စုံစွာ ဖော်ပြရန် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၅(ဈ)(ည)တို့တွင် ဖော်ပြပါရှိသော တိုးချဲ့တည်ဆောက်မည့် Tower ၊ စက်ခန်းများ၊ Facilities နှင့် Equipments စာရင်းဇယားများအား စာချုပ်၏နောက်ဆက်တွဲအဖြစ် ပူးတွဲဖော်ပြသင့်ပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ် ၆ "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" ၏ တာဝန်များ ခေါင်းစဉ်အောက်တွင် ဖော်ပြထားသော စည်းကမ်းချက်များကို လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူအနေဖြင့် ဆောင်ရွက်ရာတွင် လုပ်ငန်းစာရင်းဇယားများ၊

ငွေစာရင်းဇယားများအား စနစ်တကျထိန်းသိမ်းထားရှိရန် စည်းကမ်းချက်တစ်ရပ်အား ထည့်သွင်းဖော်ပြသင့်ပါသည်။ ဌာနလိုအပ်ချက်နှင့် ကိုက်ညီမှုရှိမရှိ ပြန်လည်စိစစ်သင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် ၆ (င)တွင် MRTV ဝန်ထမ်းများ၏ သက်သာချောင်ချိရေးကိစ္စများကို "အထိုက်အလျောက်ကူညီဆောင်ရွက်ပေးရန်" ဟု ဖော်ပြထားချက်သည် နောင်အငြင်းပွားမှုမဖြစ်ပွားစေရန် ရှင်းလင်းစွာ သတ်မှတ်ဖော်ပြသင့်ပါသည်။ ဌာန၏ လိုအပ်ချက်နှင့်ကိုက်ညီမှုရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်။

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၁၂ "လုပ်ငန်းစတင်ဆောင်ရွက်မည့်အချိန်ကာလ သတ်မှတ်ခြင်း" ခေါင်းစဉ်သည် ယင်းခေါင်းစဉ်အောက်တွင် ဖော်ပြထားသော စည်းကမ်းချက်နှင့်ကိုက်ညီမှုမရှိပါ။ မည်သည့်စည်းကမ်းချက်အား သတ်မှတ်လိုကြောင်း ရှင်းလင်းကိုက်ညီမှုရှိစေရန် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) "စာချုပ်သက်တမ်း" အပိုဒ် ၁၃(ခ)တွင် "(၃၀)နှစ်ပြည့်ပြီးနောက် ထပ်မံသက်တမ်းတိုးလိုပါက (၅)နှစ်သက်တမ်းတိုးခွင့်ရှိသည်" ဟု ဖော်ပြထားပါသည်။ ထိုသို့သက်တမ်းတိုးရာတွင် အကြိမ်မည်မျှအထိ တိုးမြှင့်နိုင်ကြောင်း ဖော်ပြရန်သင့် မသင့် ဌာနမှ ပြန်လည်စဉ်းစားသင့်ပါ သည်၊

(ဈ) လိုအပ်သောနေရာများ၌ မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်။

၄။ အသံလွှင့်လုပ်ငန်းနှင့် ရုပ်မြင်သံကြားထုတ်လွှင့်ခြင်းလုပ်ငန်းသည် နိုင်ငံတော်ပိုင်စီးပွားရေးလုပ်ငန်းများ ဥပဒေပုဒ်မ ၃(ဈ) အရ အစိုးရကသာ နိုင်ငံတော်ပိုင်စီးပွားရေးလုပ်ငန်းအဖြစ်ဆောင်ရွက်နိုင်ခွင့်ရှိသဖြင့် ယခုစာချုပ် (မူကြမ်း)များပါ လုပ်ငန်းများကို ဆောင်ရွက်နိုင်ရန် ဖော်ပြပါဥပဒေပုဒ်မ ၄ အရ အစိုးရအဖွဲ့၏ အမိန့်ကြော်ငြာစာဖြင့် ထုတ်ပြန်သည့်ခွင့်ပြုမိန့်ရရှိရန် လိုအပ်ပါသည်။

၅။ ဤစာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၆။ ရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက်သည် ဥပဒေနှင့်အညီ တရားဝင်ဖွဲ့စည်းထားသောကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ် စသည်တို့အတွက် သက်ဆိုင်ရာ စာရွက်စာတမ်းများ တောင်းယူစိစစ်သင့်ပါသည်။

၇။ ဤစာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ရန် မေတ္တာရပ်ခံအပ်ပါသည်။

၈။ ဤအကြံပြုချက်ကို လျှို့ဝှက်အဆင့်သတ်မှတ်ဆောင်ရွက်ရန်ဖြစ်ပါသည်။

( ကျော်ဆန်း )

ညွှန်ကြားရေးမှူးချုပ်

**ပြန်ကြားရေးဝန်ကြီးဌာန**

**ဝန်ကြီးရုံး**

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပြန်ကြားရေးဝန်ကြီးဌာန
မြန်မာ့အသံနှင့်ရုပ်မြင်သံကြား

နှင့်

Shwe Than Lwin Media Company Limited
တို့၏
Myanmar International ရုပ်/သံ လိုင်း
(MITV Channel)
ထုတ်လွှင့်ခြင်း၊ (Broadcasting)လုပ်ငန်း
နှင့်
စပ်လျဉ်းသမျှသောကိစ္စရပ်များအားလုံးကို သီးသန့်ပြန်လည်ချုပ်ဆိုသော
သဘောတူစာချုပ်

၂၀၁၅ ခုနှစ်၊ လ ( )ရက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပြန်ကြားရေးဝန်ကြီးဌာန
မြန်မာ့အသံနှင့်ရုပ်မြင်သံကြား

နှင့်

**Shwe Than Lwin Media Company Limited**

**တို့အကြားချုပ်ဆိုသည့်**

**Myanmar International ရုပ်/သံ လိုင်းသစ်**
**(MITV Channel) ထုတ်လွှင့်ခြင်း (Broadcasting)**
**လုပ်ငန်းကို ပူးပေါင်းဆောင်ရွက်ရေးနှင့်**
**(DTH) စနစ်ဖြင့် ဝန်ဆောင်မှုလုပ်ငန်းများဆောင်ရွက်ရေး**
**သဘောတူစာချုပ် ကို**

ပြင်ဆင်ဖြည့်စွက်သည့်သဘောတူစာချုပ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြန်ကြားရေးဝန်ကြီးဌာန

မြန်မာ့အသံနှင့်ရုပ်မြင်သံကြား

နှင့်

Shwe Than Lwin Media Company Limited

တို့၏

Myanmar International ရုပ်/သံ လိုင်းသစ်(MITV Channel)
ထုတ်လွှင့်ခြင်း(Broadcasting)လုပ်ငန်းကို ပူးပေါင်းဆောင်ရွက်ရေးနှင့်
(DTH) စနစ်ဖြင့် ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရေး
သဘောတူစာချုပ်ကို

ပြင်ဆင်ဖြည့်စွက်သည့်သဘောတူစာချုပ်

၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ၊ ( ၂၁ )ရက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြန်ကြားရေးဝန်ကြီးဌာန

မြန်မာ့အသံနှင့်ရုပ်မြင်သံကြား

နှင့်

Shwe Than Lwin Media Company Limited

တို့၏

Myanmar International ရုပ်/သံ လိုင်းသစ်(MITV Channel)

ထုတ်လွှင့်ခြင်း(Broadcasting)လုပ်ငန်းကို ပူးပေါင်းဆောင်ရွက်ရေးနှင့်

(DTH) စနစ်ဖြင့်ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရေး

သဘောတူစာချုပ်ကို

## ပြင်ဆင်ဖြည့်စွက်သည့်သဘောတူစာချုပ်

ဤပြင်ဆင်ဖြည့်စွက်သည့် သဘောတူစာချုပ်ကို နေပြည်တော်၌ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာ----------လ၊ (၁၂)ရက်နေ့တွင်-

ညွှန်ကြားရေးမှူးချုပ် ဦးတင့်ဆွေ ကိုယ်စားပြုသော မြန်မာ့အသံနှင့်ရုပ်မြင်သံကြား၊ နေပြည်တော် (ဤမှနောင်တွင် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ဟု ရည်ညွှန်း ခေါ်ဆိုရမည်ဖြစ်ပြီး ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပာယ်အရ သော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက ယင်း၏ဆက်ခံသူများ၊ ဥပဒေအရ လွှဲအပ်ခံရသူများ ပါဝင်သည်ဟု မှတ်ယူရမည်) ကတစ်ဖက်

နှင့်

Managing Director ဒေါ်စန္ဒာဝင်း ၊ ရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက် ကိုယ်စားပြုသော ရန်ကုန်မြို့၊ ဗိုလ်တထောင်မြို့နယ်၊ အမှတ်(၂၆၂)၊အောက်ပုဇွန်တောင်လမ်း၊ ရာဇာဓိရာဇ် အိမ်ရာဝင်းတွင် မှတ်ပုံတင်ရုံးခန်းတည်ထောင်ဖွင့်လှစ်ထားသော Shwe Than Lwin Media Company Limited (ဤမှနောင်တွင် "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" ဟု ရည်ညွှန်းခေါ်ဆိုရမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက ယင်း၏ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရလွှဲအပ်ခံရသူများ ပါဝင်သည်ဟုမှတ်ယူရမည်) ကအခြားတစ်ဖက်တို့သည် -

(က) ၂၀၁၀ ခုနှစ်၊ ဇူလိုင်လ (၂၈)ရက်နေ့တွင် Myanmar International ရုပ်သံလိုင်းသစ် (MITV Channel) ထုတ်လွှင့်ခြင်း (Broadcasting) လုပ်ငန်းကို ပူးပေါင်းဆောင်ရွက်ရေးနှင့် (DTH)စနစ်ဖြင့် ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရေး သဘောတူစာချုပ် (ဤမှနောင်တွင် မူလစာချုပ်ဟု ခေါ်ဆိုမည်ဖြစ်သည်) ကို ချုပ်ဆိုခဲ့ကြသည်ကတစ်ကြောင်း၊

(ခ) ၁၈-၁-၂၀၁၄ ရက်နေ့တွင် မြန်မာ့အသံနှင့်ရုပ်မြင်သံကြား(ရန်ကုန်)၌ ကျင်းပခဲ့သော ရွှေသံလွင်မီဒီယာကုမ္ပဏီလီမိတက်နှင့် ချုပ်ဆိုထားသော စာချုပ်နှင့် စပ်လျဉ်း၍ ပြင်ဆင်ချုပ်ဆိုရေး ညှိနှိုင်းအစည်းအဝေး၏ ဆုံးဖြတ်ချက်အရ မူလစာချုပ်ပါ (DTH) စနစ်ဖြင့် ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရေးကို သီးသန့်စာချုပ်အဖြစ် ပြန်လည်ပြင်ဆင်ချုပ်ဆိုလိုသည်က တစ်ကြောင်း၊

(ဂ) မူလစာချုပ်၏ အပိုဒ် ၁၅ ပါ စည်းကမ်းချက်များအရ စာချုပ်အား ပြင်ဆင်ဖြည့်စွက်နိုင်သည်က တစ်ကြောင်းတို့ကြောင့် အောက်ပါစည်းကမ်းချက်များ အတိုင်းလိုက်နာ၍ လုပ်ကိုင်ဆောင်ရွက်ရန်အတွက် နှစ်ဦးနှစ်ဘက် သဘောတူ ချုပ်ဆိုကြပါသည် -

၁။ မူလစာချုပ်၏ အပိုဒ် ၁ ရည်ရွယ်ချက်ခေါင်းစဉ်အောက်ရှိအပိုဒ်များအား ပယ်ဖျက်၍ အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည် -

(က) ထုတ်လွှင့်ပြသသည့် Channel များတွင်

(၁) သတင်းများ၊ ရုပ်ရှင်၊ ဗီဒီယို၊ အားကစား၊ တေးဂီတ အစရှိသည့် ဖျော်ဖြေရေးအစီအစဉ်များ၊ ပညာပေးအစီအစဉ်များနှင့် ဆွေးနွေးပွဲစကားဝိုင်း အစီအစဉ်များကို ပြည်တွင်း/ပြည်ပတွင် ဂြိုဟ်တု စနစ်ဖြင့်လည်းကောင်း၊ မြေပြင်အခြေစိုက် (Digital/Analogue) ရုပ်သံထုတ်လွှင့်မှုစနစ်များ၊ Cableများမှလည်းကောင်းပေးပို့ခြင်း၊ ငှားရမ်းခြင်း၊ ရုပ်/သံ ရိုက်ကူး ထုတ်လုပ် ထုတ်လွှင့်ပြသခြင်း၊ ထပ်ဆင့်ပြန်လည်ငှားရမ်း ပေးပို့ခြင်းတို့ကို ဆောင်ရွက်ရန်၊

(၂) ပြည်တွင်းပြည်ပ ရုပ်/သံလိုင်းအသစ် တိုးချဲ့ထုတ်လွှင့်ခြင်း၊ ငှားရမ်းခြင်း၊ ရောင်းချခြင်းများကို ပြုလုပ်ရန်၊

(၃) နည်းပညာများ တိုးတက်ပြောင်းလဲလာချက်အရ လိုက်လျောညီထွေ ဖြစ်မည့် နည်းစနစ်များ (သို့မဟုတ်) နည်းစနစ်သစ်များ ကိုအသုံးပြုကာ ထုတ်လွှင့်ပေးပို့ခြင်း စသည့်ဝန်ဆောင်မှု လုပ်ငန်းများကို တိုးတက် လုပ်ဆောင်ရန်၊

(၄) မြေပြင်အခြေစိုက် (Digital/Analogue) ရုပ်သံထုတ်လွှင့်မှုစနစ် များဖြင့် MNTV ၊ Channel – 9 စသည်တို့ပါဝင်သည့် စုစုပေါင်း စီးပွားဖြစ် အခမဲ့ရုပ်သံလိုင်း (၅)လိုင်းအား ထုတ်လွှင့်ပြသခြင်း လုပ်ငန်းကို ခွင့်ပြုထားသော နေပြည်တော်၊ ရန်ကုန်၊ မန္တလေး မြို့ကြီး(၃)မြို့ အပြင် မြန်မာနိုင်ငံတစ်ဝှန်းလုံးသို့ ထုတ်လွှင့်ပြသရန်၊

(၅) ဝန်ဆောင်မှုလုပ်ငန်းများတွင် ကြော်ငြာများထည့်သွင်းခြင်း၊ ပံ့ပိုးကူညီမှုဖြင့် ထုတ်လွှင့်သော အစီအစဉ်များ ထည့်သွင်းခြင်းတို့ကို ဆောင်ရွက်ရန်၊

( ခ ) မြန်မာနိုင်ငံတစ်ဝှန်းလုံး ကျေးလက်ဒေသများပါမကျန် အောက်ခြေ အလွှာ (Grass-root Level)အထိ အဆင့်အတန်းမီသော DTH စနစ် ဖြင့် ပြန်ကြားရေး၊ ပညာပေးရေးနှင့် ဖျော်ဖြေရေးအစီအစဉ်များကို အဖိုးနှုန်းချိုသာစွာဖြင့် ကြည့်ရှု ခံစားနိုင်ရန်အတွက် "လုပ်ငန်းလုပ်ကိုင် ခွင့်ရရှိသူ"မှ ထုတ်လွှင့်ပေးရန်၊

( ဂ ) မြန်မာနိုင်ငံ၏နိုင်ငံရေး၊ စီးပွားရေး၊ လူမှုရေး၊ ယဉ်ကျေးမှု၊ အချုပ်အခြာ အာဏာ ပိုင်စိုးမှုကို ပြည်တွင်းမီဒီယာဖြင့်ထိရောက်စွာလွှမ်းမိုးထားနိုင်ရန်နှင့် ပြည်ပမှ တရားမဝင် မီဒီယာများထိုးဖောက်ဝင်ရောက်မှုကို ထိရောက်စွာ ဟန့်တားနိုင်ရန်၊

(ဃ) ပြည်ပရောက် မြန်မာနိုင်ငံသားများအနေဖြင့်လည်းကောင်း၊ မြန်မာနိုင်ငံသို့ အကြောင်းအမျိုးမျိုးဖြင့် ရောက်ရှိနေကြသော နိုင်ငံခြားသားများအနေ နှင့် လည်းကောင်း၊ မြန်မာနိုင်ငံ၏ပကတိအခြေအနေမှန်ကို သိရှိစေရန်နှင့် မြန်မာ့ ရိုးရာ ယဉ်ကျေးမှုဓလေ့ထုံးစံများကို မပြတ်ထိတွေ့ခံစားနိုင်စေရန်၊

( င ) နိုင်ငံတော်အတွက် ဝင်ငွေတိုးတက်ရရှိစေရန်၊

( စ ) ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခြင်းဖြင့် ပြည်တွင်းစီးပွားရေးလုပ်ငန်းများ နှင့် ပြည်တွင်းရုပ်/သံမီဒီယာလုပ်ငန်းများရှင်သန်ဖွံ့ဖြိုးစေရန်၊

(ဆ) မြန်မာ့အသံနှင့်ရုပ်မြင်သံကြား လုပ်ငန်းများတွင် ရေရှည်အကျိုးတူ လုပ်ငန်း များကို နှစ်ဦးနှစ်ဘက် ညှိနှိုင်းတိုးချဲ့ဆောင်ရွက်ရန်၊

၂။ မူလစာချုပ်၏ အပိုဒ် ၂ ဆောင်ရွက်မည့်လုပ်ငန်း ခေါင်းစဉ်အောက်ရှိ အပိုဒ်များအား ပယ်ဖျက်၍ အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည် -

(က) အထက်အပိုဒ် (၁)ပါလုပ်ငန်းများကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"က "လုပ်ငန်း လုပ်ကိုင်ခွင့်ရရှိသူ" အား အကောင်အထည်ဖော် ဆောင်ရွက်ခွင့်ပြုမည် ဖြစ်သည်။

( ခ ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည် လုပ်ငန်းတစ်ခုလုံးအတွက် တာဝန်ယူ ရမည့် အဖွဲ့အစည်းဖြစ်သည်။

( ဂ ) လုပ်ငန်းလုပ်ဆောင်ရာတွင် "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"သည် လုပ်ငန်းကို အောင်မြင်စွာ ဆောင်ရွက်နိုင်ရန်အတွက် မိမိ၏ဝန်ဆောင်မှု၊ကျွမ်းကျင်မှု နှင့် လိုအပ်သော စက်ပစ္စည်းနှင့်စက်ကိရိယာများ၊ ငွေကြေးပံ့ပိုးမှုများကို ဤပြင်ဆင် ဖြည့်စွက်သည့် သဘောတူစာချုပ်၏ အပိုဒ်(၆)ပါအတိုင်း တာဝန်ယူ ဆောင်ရွက် မည့် အဖွဲ့အစည်းဖြစ်ပြီး ဤပြင်ဆင်ဖြည့်စွက်သည့် သဘောတူစာချုပ်၏ အပိုဒ်(၆)ပါ လုပ်ငန်းတာဝန်များ၏ စီမံခန့်ခွဲမှု (Management) ကို လွတ်လပ်စွာ ကိုင်တွယ်ဆောင်ရွက်မည့် အဖွဲ့အစည်း လည်းဖြစ်သည်။

(ဃ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" နှင့် "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" သည် အောက်ပါ ဝန်ဆောင်မှုလုပ်ငန်းများကို နှစ်ဦးနှစ်ဘက် ညှိနှိုင်းသဘောတူ ညီချက်ရယူ၍ ဆောင်ရွက်ရမည်ဖြစ်သည် -

(၁) ရုပ်/သံလိုင်းများကို ဂြိုဟ်တုမှတဆင့် နေအိမ်သို့အရောက် တိုက်ရိုက် ထုတ်လွှင့်သည့် DTH စနစ် (Direct to Home Satellite TV Transmission System)ကို အကောင်အထည်ဖော် ဆောင်ရွက်ခြင်း လုပ်ငန်း (ရုပ်/သံလိုင်းများကို ဂြိုဟ်တုမှတစ်ဆင့် ထုတ်လွှင့်ပြီး ဂြိုဟ်တု စလောင်းနှင့် ဒစ်ဂျစ်တယ်ရုပ်/သံဖမ်းစက်ဖြင့် ဖမ်းယူကြည့်ရှု နိုင်စေသော လုပ်ငန်း)

(၂) Fibre Optical Cable မှလည်းကောင်း၊ Digital စနစ်ဖြင့်လည်း ကောင်း၊ Analogue စနစ်ဖြင့်လည်းကောင်း၊ ရုပ်/သံ အစီအစဉ် များထုတ်လွှင့်ခြင်း၊ ပေးပို့ခြင်း၊ ငှားရမ်းခြင်း၊ ရုပ်/သံ အစီအစဉ်များ ရိုက်ကူးထုတ်လုပ်၊ ထုတ်လွှင့်ပြသခြင်း၊ ထပ်ဆင့် ပြန်လည် ငှားရမ်း ပေးပို့ခြင်း လုပ်ငန်း၊

(၃) "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" အနေဖြင့် Free to Air Commercial Channel များဖြစ်သော MNTV ၊ Channel - 9 စသည်တို့ပါဝင်သည့် စုစုပေါင်း အခမဲ့ရုပ်သံလိုင်း (၅)လိုင်းအား ထုတ်လွှင့်ပြသခြင်းလုပ်ငန်းကို ခွင့်ပြုထားသည့် မြို့ကြီး (၃)မြို့ အပြင် မြန်မာနိုင်ငံတစ်ဝှန်းလုံးသို့ DTH စနစ်၊ မြေပြင် အခြေစိုက် (Digital/ Analogue) ရုပ်သံထုတ်လွှင့်မှု စနစ်များ၊ Cable TV စနစ် အစရှိသည်တို့ဖြင့် ထုတ်လွှင့်ပြသခြင်း လုပ်ငန်း၊

(၄) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏ Free to Air Channel များ ဖြစ်သော MRTV Channel ၊ မြန်မာ့အသံနှင့်ရုပ်မြင်သံကြား နှင့် ရွှေသံလွင်မီဒီယာ ကုမ္ပဏီလီမိတက်တို့ အကျိုးတူ ပူးပေါင်း၍ ဖက်စပ်ထုတ်လုပ်သော MITV Channel တို့ကို DTH စနစ်တွင် ထည့်သွင်း၍ ထုတ်လွှင့် ပေးသောလုပ်ငန်း၊ ၎င်းအပြင် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က တိုးချဲ့ ထုတ်လွှင့်သည့် အခြားသော အခမဲ့ Channel များကိုလည်း "လုပ်ငန်း လုပ်ကိုင်ခွင့်ရရှိသူ" က ၎င်း၏ DTH စနစ်တွင် ထည့်သွင်းထုတ်လွှင့် လိုပါ က ထည့်သွင်း ထုတ်လွှင့်ပေးခြင်းလုပ်ငန်း၊

(၅) Data Broadcasting စနစ်ကို အသုံးပြု၍ ရုပ်သံနှင့် Data အချက် အလက်များကို ပေးပို့ထုတ်လွှင့်ခြင်း၊ ငှားရမ်းခြင်း၊ လဲလှယ်ခြင်း၊ ရောင်းချခြင်းလုပ်ငန်းများ၊

(င) "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"သည် အောက်ပါလုပ်ငန်းများကို ဆောင်ရွက်လိုပါ က"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"နှင့် နှစ်ဦးနှစ်ဘက် ညှိနှိုင်းသဘောတူညီမှုဖြင့် ဆောင်ရွက်ရမည် -

(၁) ရုပ်/သံ ထုတ်လွှင့်ခြင်းဆိုင်ရာ လုပ်ငန်းများကို ခွင့်ပြုထားသည့် နေပြည်တော်၊ ရန်ကုန်၊ မန္တလေး စသည့် မြို့ကြီး(၃)မြို့အပြင် မြန်မာနိုင်ငံတစ်ဝှန်းလုံးသို့ မြေပြင်အခြေစိုက် (Digital/ Analogue) ရုပ်သံထုတ်လွှင့်မှု စနစ်များဖြင့် ထပ်မံတိုးချဲ့၍ အခမဲ့ ထုတ်လုပ်ပြသခြင်း၊

(၂) မြေပြင်အခြေစိုက် (Digital/Analogue) ရုပ်သံထုတ်လွှင့်မှုစနစ် များဖြင့် ထပ်မံတိုးချဲ့၍ ရုပ်သံထုတ်လွှင့်ခြင်းဆိုင်ရာ လုပ်ငန်းများ ကို လုပ်ဆောင်၍ ကြည့်ရှုသူ (Subscriber) ထံမှ အခကြေးငွေ ကောက်ခံသော Pay TV လုပ်ငန်း၊

(စ) ပြည်တွင်း/ပြည်ပ ရုပ်/သံ လိုင်းအသစ် တိုးချဲ့ထုတ်လွှင့်ခြင်း၊ ငှားရမ်းခြင်း၊ ရောင်းချခြင်းများ ပြုလုပ်ခြင်း၊

(ဆ) နည်းပညာများ တိုးတက်ပြောင်းလဲလာချက်အရ လိုက်လျောညီထွေ ဖြစ်မည့် နည်းစနစ်များ (သို့မဟုတ်) နည်းစနစ်သစ်များကိုအသုံးပြုကာ ထုတ်လွှင့် ပေးပို့ခြင်း စသည့် ဝန်ဆောင်မှုလုပ်ငန်းများ တိုးတက်လုပ်ဆောင်ခြင်း၊

(ဇ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"မှ လက်ရှိပိုင်ဆိုင်သော ထပ်ဆင့်လွှင့်စက်ရုံများတွင် လည်းကောင်း၊ နောင်တိုးချဲ့ တပ်ဆင်လာမည့် ထပ်ဆင့် လွှင့်စက်ရုံများတွင် လည်းကောင်း၊ တွဲဘက်အသုံးပြု၍ ရုပ်/သံရိုက်ကူး၊ ထုတ်လုပ်၊ ထုတ်လွှင့်ပြသ ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံတစ်ဝှန်းလုံးသို့ ပြသနိုင်ရေးအတွက်ဆောင်ရွက်ခြင်း၊

(ဈ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"သည် ရုပ်/သံ အစီအစဉ်များကို ကိုယ်ပိုင်ရိုက်ကူး ထုတ်လုပ်၊ ထုတ်လွှင့်၊ ပြသငှားရမ်းခြင်းစသည့်ကိစ္စများ ပြုလုပ်ဆောင်ရွက် ခွင့်နှင့် ယင်းသို့ဆောင်ရွက်နိုင်ရန် "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"ပိုင် Facilityများ ထူထောင်တည်ဆောက် ခွင့်ပြုရာတွင် -

(၁) ရုပ်/သံ ထုတ်လွှင့်မှုပိုင်းဆိုင်ရာ လိုအပ်သော အခြေခံစက်ပစ္စည်းများကို "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" သည် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" နှင့် ညှိနှိုင်းသဘောတူညီချက် ရယူဆောင်ရွက်ရမည်။

(၂) ရုပ်/သံ ထုတ်လုပ်မှုပိုင်းဆိုင်ရာ လိုအပ်သော အခြေခံအဆောက်အဦများ ကို "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"သည် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" နှင့် ညှိနှိုင်းသဘော တူညီချက် ရယူဆောင်ရွက်ရမည်။

(၃) Communication Link ပိုင်းဆိုင်ရာအတွက် လိုအပ်သော အခြေခံ စက်ပစ္စည်းများနှင့် အဆောက်အဦများကို "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" သည် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" နှင့် ညှိနှိုင်းသဘောတူညီချက်ရယူ ဆောင်ရွက်ရမည်။

SHWE THAN LWIN MEDIA CO., LTD. No....... Date.......

(ည) ဤပြင်ဆင်ဖြည့်စွက်သည့်စာချုပ်၏ အပိုဒ်(၂)ပါ ဝန်ဆောင်မှုလုပ်ငန်းများသည် နည်းပညာရပ်ကျယ်ပြန့်ပြီး ရင်းနှီးမြှုပ်နှံမှုကြီးမားပါသည်။ သို့ဖြစ်ပါ၍ ဖော်ပြပါ လုပ်ငန်းများကို အောင်မြင် ထိရောက်စွာ အကောင်အထည်ဖော်ရန်နှင့် ရေရှည်တည်တန့်ခိုင်မြဲရေးတို့အတွက် "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" သည် ဝန်ဆောင်မှု၊ ကျွမ်းကျင်မှု၊ နည်းပညာ၊ ရင်းနှီးမြှုပ်နှံမှုနှင့် အခြားကိစ္စရပ်များတွင် အခြားသော ပြည်တွင်း၊ ပြည်ပကုမ္ပဏီများနှင့်လည်းကောင်း၊ အစိုးရ (သို့မဟုတ်) အစိုးရမဟုတ်သော ဌာနအဖွဲ့အစည်းများနှင့်လည်းကောင်း အကျိုးတူပူးပေါင်း ဆောင်ရွက်လိုပါက "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" နှင့် ညှိနှိုင်းသဘောတူညီချက် ရယူပြီး ဆောင်ရွက်ခွင့် ပြုသည်။

(ဋ) အထက်ပါ ဝန်ဆောင်မှုလုပ်ငန်းများတွင် ကြော်ငြာထည့်သွင်းခြင်းလုပ်ငန်း အပါအဝင် ဖြစ်ထွန်းလာသော လုပ်ငန်းများမှရရှိသည့် ဝင်ငွေများအနက်မှ ဤ ပြင်ဆင်ဖြည့်စွက်သည့် သဘောတူစာချုပ်ပါ ငွေကြေးတွက်ချက်မှု ပမာဏ အတိုင်း "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သို့ ပေးသွင်းပြီး ကျန်ရှိသည့် အကျိုး အမြတ်အား "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" မှ ခံစားရမည်ဖြစ်သည်။

(ဌ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" သည် ကြော်ငြာဝင်ငွေများ ကြည့်ရှုသူများထံမှ အခကြေးငွေကောက်ခံရရှိသော ဝင်ငွေများ (Subscription Fee) နှင့် Conditional Access(CA) စာရင်းတို့ကို ကောက်ခံထိန်းသိမ်းခွင့်ရရှိစေရမည်။

(ဍ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" သည် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" နှင့် Joint ပြုလုပ်ပြီး နောင်တွင် Broadcasting Network Operator အဖြစ် ဆောင်ရွက်ခွင့်ရှိသည်။ ထိုသို့ ဆောင်ရွက်ခြင်းအတွက် "လုပ်ငန်းလုပ်ကိုင် ခွင့်ပြုသူ" နှင့် "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" တို့အကြား သီးခြားစာချုပ် ချုပ်ဆိုရမည်။

(ဎ) Broadcasting Network Operator အဖြစ် လုပ်ငန်းများဆောင်ရွက်သည့်အခါ Infrastructure ငှါးရမ်းခကိစ္စရပ်များကို ပြန်လည်တွက်ချက် ဆောင်ရွက်ရမည်။

(ဏ ) ရုပ်/သံ အစီအစဉ်များ ရိုက်ကူးခြင်း၊ ထုတ်လုပ်ခြင်း၊ ထုတ်လွှင့်ခြင်း၊ ပြသခြင်း၊ ငှားရမ်းခြင်း၊ နည်းပညာသစ်များ ပြောင်းလဲကျင့်သုံးခြင်း စသည့်အကြောင်း တစ်ခုခုတို့ကြောင့် ပေါ်ပေါက်လာမည့် လုပ်ငန်းလိုအပ်ချက်အရ DTH စနစ်တွင်ဖြစ်စေ၊ မြေပြင်အခြေစိုက် (Digital/ Analogue) ရုပ်သံထုတ်လွှင့်မှု စနစ်များတွင်ဖြစ်စေ၊ အခြား စနစ်တွင်ဖြစ်စေ Machinery၊ Equipment ၊ Facilities ၊ System စသည် တို့အတွက် အဆောက်အဦ (သို့မဟုတ်) မြေနေရာ ရင်းနှီးမြှုပ်နှံ တည်ဆောက်မည်ဆိုလျှင် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" နှင့် "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" တို့ ညှိနှိုင်းသဘောတူ၍ သီးခြားစာချုပ် ချုပ်ဆို ဆောင်ရွက်ရမည်။

၃။ မူလစာချုပ်၏ အပိုဒ် ၃ ထုတ်လွှင့်ပြသမည့်စနစ်များခေါင်းစဉ်အောက်ရှိအပိုဒ်များကို ပယ်ဖျက်၍ အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည် -

"လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" သည် မြန်မာနိုင်ငံတော်၏ ဆက်သွယ်ရေးမူဝါဒနှင့်အညီ သင့်လျော်သော အောက်ပါထုတ်လွှင့်မှုစနစ်များကို အသုံးပြုနိုင်သည် -

(က) ဂြိုဟ်တုမှတစ်ဆင့် DTH (Direct To Home-Via Satellite) စနစ်၊ (Digital Video Broadcasting Via Satellite) DVB-S, DVB-S2 မြေပြင်အခြေစိုက် (Digital/Analogue) ရုပ်သံထုတ်လွှင့်မှု စနစ်များ၊ Fibre Optical Cable စနစ်၊ Streaming Video စနစ်၊ On Demand စနစ်နှင့် Pay Perview တို့ဖြင့်လိုအပ်သလို ထုတ်လွှင့်ပြသခြင်း၊

(ခ) တစ်ဦးဦးကတည်ထောင်ထားသော (သို့မဟုတ်) မိမိကိုယ်ပိုင်အစီအစဉ်ဖြင့် တည်ထောင်ထားသော Digital Video Broadcasting to Handheld or Mobile or Internet စနစ်တွင် ထည့်သွင်းထုတ်လွှင့် ပြသခြင်း၊

(ဂ) နေပြည်တော်၊ ရန်ကုန်၊ မန္တလေး စသည့် မြို့ကြီး(၃)မြို့အပြင် မြန်မာနိုင်ငံတစ်ဝှန်းလုံးသို့ သင့်လျော်သော နည်းစနစ် တစ်ခုခုဖြင့် Free to Air Commercial Channel များဖြစ်သော MNTV ၊ Channel-9 စသည်တို့ ပါဝင်သည့် စုစုပေါင်း အခမဲ့ ရုပ်သံလိုင်း (၅)လိုင်းကို ထုတ်လွှင့် ပြသခြင်း၊

(ဃ) တစ်ဦးဦးကတည်ထောင်ထားသော (သို့မဟုတ်) မိမိကိုယ်ပိုင် အစီအစဉ်ဖြင့် တည်ထောင်ထားသော Cable စနစ်တွင် Interactive TV, MHP (Multimedia Home Platform)စနစ်ဖြင့်လည်းကောင်း၊ On Demand စနစ်နှင့် Pay Perview စနစ်ဖြင့်လည်းကောင်း ထည့်သွင်းထုတ်လွှင့် ပြသခြင်း၊

(င) HD (High Definition)စနစ်ဖြင့်ထုတ်လွှင့်ပြသခြင်း၊

(စ) တစ်ဦးဦးကတည်ထောင်ထားသော (သို့မဟုတ်) မိမိကိုယ်ပိုင် အစီအစဉ်ဖြင့် တည်ထောင်ထားသော IPTV (Internet Protocol Television) စနစ်တွင် ထည့်သွင်းထုတ်လွှင့်ပြသခြင်း၊

(ဆ) နည်းပညာများ တိုးတက်ပြောင်းလဲလာချက်အရ လိုက်လျောညီထွေစွာ ပြောင်းလဲဖြစ်ပေါ်လာမည့် နည်းစနစ်များ အသုံးပြု၍ ရုပ်/သံနှင့် Data အချက်အလက်များ ထုတ်လွှင့်မှုဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခြင်း၊

၄။ မူလစာချုပ်၏ အပိုဒ် ၅ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"၏တာဝန်များ ခေါင်းစဉ်အောက်ရှိ အပိုဒ်များအား ပယ်ဖျက်၍ အောက်ပါအပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည် -

(က) "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" သည် မြန်မာနိုင်ငံအနှံ့တွင် Fibre Cable ဆက်ကြောင်းများ ဆက်သွယ်နိုင်ရန် ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာနထံမှ လုပ်ကိုင်ခွင့်ရရှိရေးအတွက် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က ကူညီဆောင်ရွက်ပေးရန်၊

(ခ) DTH စနစ်ဝန်ဆောင်မှုလုပ်ငန်းအတွက် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က နှစ်ဦးနှစ်ဘက် ညှိနှိုင်းမှုဖြင့် "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" အား အောက်ပါတို့ကို အခမဲ့ပူးတွဲ သုံးစွဲခွင့်ပြုမည် -

(၁) နေပြည်တော်၊ တပ်ကုန်းရှိ MRTV ပိုင် 11 Meter Ku-Band Uplinking System

(၂) MRTV ပိုင် ရုပ်မြင်သံကြားထုတ်လုပ်ရေး Studio များ

(၃) MRTV ပိုင် သင့်လျော်သော ရုံးခန်းနှင့်စက်ခန်းနေရာများ

(ဂ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည် "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" အား ရုပ်/သံ လိုင်းများထုတ်လွှင့်နိုင်ရန်အတွက် Satellite Transponder ငှားရမ်းရေးတွင် လိုအပ်သည်များကို ကူညီပံ့ပိုးပေးရန်နှင့် နည်းပညာပိုင်းဆိုင်ရာ စံနှုန်းသတ်မှတ်ချက်များကိုဆောင်ရွက်ပေးရန်၊

(ဃ) အခကြေးငွေပေးချေဝယ်ယူရမည့် အစီအစဉ်များ(Contents)နှင့် စပ်လျဉ်းသည့် မူပိုင်ခွင့်များကို သင့်လျော်သောဈေးနှုန်းနှင့် "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" က ဝယ်ယူရရှိနိုင်ရန် သက်ဆိုင်ရာဌာန အဖွဲ့အစည်းများနှင့် လိုအပ်သလို ညှိနှိုင်းဆောင်ရွက်ပေးရန်၊

(င) ထုတ်လွှင့်မည့်ပြည်တွင်း/နိုင်ငံခြားရုပ်ရှင်၊ ဗီဒီယို၊ တေးဂီတနှင့် အခြား အစီအစဉ် (Contents)များအတွက် ဆင်ဆာခွင့်ပြုချက်များရရှိရေးနှင့် အဆင်ပြေချောမွေ့ရေးအတွက် လိုအပ်သည်များကို ကူညီပံ့ပိုးဆောင်ရွက်ပေးရန်၊

(စ) ဤပြင်ဆင်ဖြည့်စွက်သည့် သဘောတူစာချုပ်ပါ ရည်ရွယ်ချက်များကို အကောင်အထည်ဖော် ဆောင်ရွက်ရာတွင် လုပ်ငန်းများအောင်မြင်ရန်အလို့ငှာ အထက် အပိုဒ် ၂ ပါ ဆောင်ရွက်မည့်လုပ်ငန်းများကို လုပ်ကိုင်အကောင်အထည်ဖော်နိုင်ရန်အတွက် သက်ဆိုင်ရာအစိုးရအဖွဲ့အစည်း၊ ဌာနအသီးသီးတို့မှ လိုအပ်သောခွင့်ပြုမိန့်၊ ပါမစ်၊ လိုင်စင်များ ရရှိရေးအတွက် ကူညီဆောင်ရွက်ပေးရန်၊

(ဆ) ဤပြင်ဆင်ဖြည့်စွက်သည့် သဘောတူစာချုပ် အပိုဒ် (၂)ပါ လုပ်ငန်းကို ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံအတွင်း တပ်ဆင်ထားပြီးသော "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ပိုင် တာဝါများ၊ စက်ခန်း များ၊ ရုံးခန်းများ၊ Facilities & Equipments များနှင့် နောင်တွင်တိုးချဲ့တပ်ဆင် တည်ဆောက်မည့် တာဝါများ၊ စက်ခန်းများ၊ ရုံးခန်းများ၊ Facilities & Equipments များအသုံးပြုခွင့် ကို "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"က "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"နှင့် နှစ်ဦးနှစ်ဘက် ညှိနှိုင်းသဘောတူညီချက် ရယူပြီး ဆောင်ရွက်ခွင့်ပြုရန်၊

(ဇ) လုပ်ငန်းလိုအပ်ချက်အရ ရုပ်/သံ ရိုက်ကူးထုတ်လုပ်မှုနှင့် ထုတ်လွှင့်ပေးပို့ ပြသခြင်းဆိုင်ရာ လုပ်ငန်းတို့အတွက် အဆောက်အဦ၊ Tower၊ Antenna၊ Earth Station ၊ Studio စသည်များ တိုးချဲ့တည်ဆောက်ရန် လိုအပ် လာပါက နှစ်ဦးနှစ်ဘက် ညှိနှိုင်းသဘောတူညီချက်ရယူပြီး ဆောင်ရွက်ခွင့် ပြုရန်၊

၅။ မူလစာချုပ်၏ အပိုဒ် ၆ ပါ "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"၏တာဝန်များ ခေါင်းစဉ် အောက်ရှိ အပိုဒ်ခွဲ (က)၊ (ဃ)၊ (င)၊ (စ)၊ (ဆ)၊ (ဇ) တို့အား ပယ်ဖျက်ရမည်။

၆။ မူလစာချုပ်၏ အပိုဒ် ၆ ပါ "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"၏တာဝန်များ ခေါင်းစဉ် အောက်ရှိ အပိုဒ်ခွဲ (ခ)အား (က)အနေဖြင့်လည်းကောင်း၊ အပိုဒ်ခွဲ (ဂ)အား (ခ)အနေဖြင့် လည်းကောင်း၊ အပိုဒ်ခွဲ (ဈ)အား (ဂ)အနေဖြင့်လည်းကောင်း၊ အပိုဒ်ခွဲ (ည)အား (ဃ) အနေဖြင့် လည်းကောင်း၊ အပိုဒ်ခွဲ(ဋ)အား (င) အနေဖြင့်လည်းကောင်း၊ အပိုဒ်ခွဲ(ဌ)အား (စ)အနေဖြင့် လည်းကောင်း ပြင်ဆင်သတ်မှတ်ရမည်။

၇။ မူလစာချုပ်၏ အပိုဒ် ၆ ပါ "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"၏တာဝန်များ ခေါင်းစဉ် အောက်တွင် အောက်ပါစာပိုဒ်ခွဲအား အပိုဒ်ခွဲ (င)အနေဖြင့် အစားထိုးပြင်ဆင်ရမည် -

(င) "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"သည် ကြည့်ရှုသူများထံမှ ငှားရမ်းကြည့်ရှုခများနှင့် ကြော်ငြာခများကောက်ခံရန်၊

၈။ မူလစာချုပ်၏ အပိုဒ် ၆ ပါ "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"၏တာဝန်များ ခေါင်းစဉ် အောက်တွင် အောက်ပါစာပိုဒ်ခွဲအား အပိုဒ်ခွဲ (ဆ)အဖြစ် ထပ်မံဖြည့်စွက်ဖော်ပြရမည် -

(ဆ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" သည် ထုတ်လွှင့်သည့် အစီအစဉ်များ(Content) ပိုင်းဆိုင်ရာကိစ္စရပ်များနှင့် ပတ်သက်၍သော်လည်းကောင်း၊ Network ပိုင်း ဆိုင်ရာ အသုံးပြုမည့်နည်းပညာပိုင်း၊ စက်မှုပိုင်းဆိုင်ရာကိစ္စရပ်များနှင့် ပတ်သက် ၍သော်လည်းကောင်း အသစ်ထပ်မံတိုးချဲ့ဆောင်ရွက်လိုပါက "လုပ်ငန်းလုပ်ကိုင် ခွင့်ပြုသူ" နှင့် ညှိနှိုင်းသဘောတူညီချက်ရယူပြီး ဆောင်ရွက်ရမည်။

၉။ မူလစာချုပ်၏ အပိုဒ် ၇ လုပ်ငန်းလုပ်ကိုင်ခွင့်သက်တမ်း ခေါင်းစဉ်အောက်ရှိအပိုဒ်အား အပိုဒ်ခွဲ(က)အဖြစ် ပြင်ဆင်သတ်မှတ်၍ ယင်းအပိုဒ်၏အောက်တွင် အောက်ပါစည်းကမ်းချက်ကို အပိုဒ်ခွဲ(ခ) အဖြစ် ထပ်မံဖြည့်စွက်ရမည် -

(ခ) "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ"က ဤစာချုပ်ပါ ၎င်း၏ တာဝန်များကို ဆောင်ရွက် ရန် ပျက်ကွက်ခြင်း မရှိသရွေ့ ဤစာချုပ်၏ အပိုဒ်-၂ ပါ ဆောင်ရွက်မည့် လုပ်ငန်း ကို "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" အား မူလစာချုပ်အရ လုပ်ငန်းလုပ်ကိုင်ခွင့် သက်တမ်းကုန်ဆုံးသည်အထိ ဆက်လက်ဆောင်ရွက်ခွင့်ပြုမည်။

၁၀။ မူလစာချုပ်၏ အပိုဒ် ၈ အကျိုးအမြတ်ခွဲဝေခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်များအား ပယ်ဖျက်၍ အောက်ပါအပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည် -

(က) လုပ်ငန်းပုံမှန်စတင်သည့်နေ့မှပထမ (၃)နှစ်ကာလသည် ဝင်ငွေနည်းပါးပြီး ကုန်ကျစရိတ်ကြီးမားသည့်အတွက် ရရှိသောဝင်ငွေမှဥပဒေအရ ပေးဆောင်ရန်ရှိသည့် အခွန်အခအားလုံးကို ပေးဆောင်ခြင်းမှသော်လည်းကောင်း၊ အကျိုးအမြတ် ခွဲဝေခြင်းမှသော်လည်းကောင်း ကင်းလွတ်ခွင့်ပြုသော ကာလဟု သတ်မှတ်သည်။

(ခ) အကျိုးအမြတ်ခွဲဝေခြင်းနှင့်ပတ်သက်၍ "လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူ" သည် ခွင့်ပြုထားပြီးဖြစ်သည့် နေပြည်တော်၊ ရန်ကုန်၊ မန္တလေး စသည့်မြို့ (၃)မြို့အပြင် မြန်မာနိုင်ငံတစ်ဝှန်းလုံးတွင် Free to Air Channel များဖြစ်သော MNTV Channel ၊ Channel-9 စသည်တို့ပါဝင်သည့် စုစုပေါင်း စီးပွားဖြစ် အခမဲ့ ရုပ်သံလိုင်း(၅)လိုင်းကို ထုတ်လွှင့်မည်ဖြစ်ရာ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ပိုင် ထပ်ဆင့်လွှင့်စက်ရုံ(၃)ရုံရှိ Infrastructure ငှါးရမ်းခများကို အောက်ပါအတိုင်း သတ်မှတ်သည် -

(၁) Transmitter ထားမည့်
စက်ခန်းနေရာငှါးရမ်းခ - 3000W x 1000 Ks Per watt = (၃၀) သိန်း

(၂) Antenna တပ်ဆင်မည့်
Tower နေရာ ငှါးရမ်းခ - 200 Kg x 1000 Kyats Per Kg = (၂) သိန်း

(၃) Bandwidth လှိုင်းနှုန်းကြေး
(Free to Air) Channel တစ်ခုလျှင် = (၅၀) သိန်း

(၄) ခွင့်ပြုထားသော မြို့ကြီးသုံးမြို့တွင် ရန်ကုန်မြို့ရှိ Tower တိုင်နှင့် စက်ခန်းနေရာ(Infrastructure) မှာ MRTV နှင့် ရွှေသံလွင်ကုမ္ပဏီတို့ ပူးပေါင်းရင်းနှီးမြှုပ်နှံမှု ပြုထားသဖြင့် ရန်ကုန်မြို့အတွက် တွက်ချက်ခြင်းမပြုပါ။

(၅) သို့ဖြစ်၍ နေပြည်တော်နှင့် မန္တလေးမြို့များအတွက် အောက်ပါအတိုင်း လစဉ်ပေးသွင်းရမည် -

(က) Transmitter (ထားမည့်စက်ခန်းနေရာငှါးရမ်းခ)
စက်တစ်လုံးလျှင် (၃၀) သိန်း x ၅ လုံး = ကျပ် (၁၅၀)သိန်း

(ခ) Antenna တပ်ဆင်မည့် Tower နေရာ
ငှါးရမ်းခ 200 Kg လျှင် (၂)သိန်း x ၂ ခု = ကျပ် (၄) သိန်း

(ဂ) Bandwidth ငှါးရမ်းခ (Free to Air)
1 Channel လျှင် (၅၀) သိန်း x ၅ခု = ကျပ် (၂၅၀) သိန်း
စုစုပေါင်း = ကျပ် (၄၀၄) သိန်း

